# ဗုဒ္ဓ၏ဩဝါဒအမြုတေ

ဒဂုန်ဦးထွန်းမြင့်



# မာတိကာ

- ကိုယ့်ကိုယ်ကို ချစ်လျှင်
- အောင်နိုင်ခဲ့သည့် စစ်ပွဲကို အောင်သူ
- မတိုက်ဘဲနှင့် အောင်နိုင်သူ
- သောတာပန်ဖြစ်လျှင် ငါးပါးသီလ မလွန်ကျူး
- ဝေဒနာခံရတိုင်း ကံကြောင့် မထင်နှင့်
- စိတ်သောကဖြစ်နေရတာ ဘာ့ကြောင့်ထင်သလဲ
- ကောင်းရာသုဂတိလားပါစေဆိုတိုင်း လားရော့သလား
- ရှေးကလို မစည်ကားတာ ဘာ့ကြောင့်
- မိဘဆိုတာ ဘုရားနှင့် တစ်ဂိုဏ်းတည်း
- ကိုယ်တိုင်သိတရား
- ငါဘုရား ဘာတတ်နိုင်မည်နည်း
- နောင်ဘဝကို ဘယ်သူဖန်တီးသလဲ
- စိတ်
- မိမိကိုယ်
- ပညာရှိ သူတော်ကောင်း
- လူမိုက်
- မကောင်းမှု
- မေတ္တာ
- သစ္စာစကား
- ချစ်သူ
- အပေါင်းအသင်း
- ဒေါသ
- အိမ်ထောင်ဦးစီး
- ပြည်သူ့ဝန်ထမ်း
- လောက
- ကာမဂုဏ်အလှတောမှာ
- အထွေထွေ

## နိဒါန်း

လူအများ၏ ကောင်းကျိုးချမ်းသာကို ဆောင်ရွက်တော်မူရန် အလို့ငှာ ပွင့်ထွန်း ပေါ်ပေါက်တော်မူလာသော မဟာဂရုဏာရှင် မြတ်စွာဘုရားသည် လူအများတို့ ကောင်းကျိုးချမ်းသာ ရရှိစေခြင်းငှာ တရားဒေသနာတော်များကို ဟောကြားတော်မူခဲ့လေသည်။

ဗုဒ္ဓမြတ်စွာဘုရား ဟောကြားတော်မူခဲ့သည့် တရားတော်များသည် ကျင့်သုံး လိုက်နာသူတို့အဖို့ ခုရော နောင်ပါ ကောင်းကျိုးချမ်းသာတို့ကို မုချခံစားရရှိစေနိုင်သည့် တရားတော်များ ဖြစ်သည်။

ပုဒ်ရေ ရှစ်သောင်းလေးထောင်ခန့် ရှိသော ဗုဒ္ဓမြတ်စွာဘုရား၏ တရားတော်များ၌ တစ်ပုဒ်တစ်ပုဒ်သော တရားတော်များကို မဆိုထားဘိ တရားတစ်ပုဒ်၌ပါရှိသည့် စကားတစ်ပိုဒ်ကလေး တစ်ခုကိုပင်လျှင် လိုက်နာကျင့်သုံးပါက ယခုဘဝအတွက်လည်းကောင်း၊ နောင်သံသရာအတွက်လည်းကောင်း တကယ်အကျိုးရှိ၍ ချမ်းသာသုခကို မုချခံစားရရှိနိုင်လေသည်။

ဤစာအုပ်တွင် ယင်းကဲ့သို့သော အဖိုးတန် စကားပိုဒ်ကလေးပေါင်းများစွာမှ အနည်းငယ်မျှသော အဆုံးအမ စကားပိုဒ်ကလေးများကို သင့်လျော်အံ့ထင်သော စာခေါင်းကလေးများ တပ်ကာ မူရင်းပါဠိဘာသာမှ လူအများနားလည်လွယ်သော စကားလုံးအသုံးအနှုန်းများဖြင့် ပြန်ဆို ရေးသား ဖော်ပြထားပါသည်။

ယင်းအဆုံးအမ စာပိုဒ်ကလေးများမှာ စာပိုဒ်တိုကလေးများ ဖြစ်သော်လည်း ခံယူသူများအဖို့ ကောင်းကျိုးချမ်းသာ မုချ ရရှိစေနိုင်သည့် အဖိုးတန် ဩဝါဒအမြုတေများပင် ဖြစ်သည်။

ဤဩဝါဒအမြုတေများကို ဆောင်ထားပါက လွန်စွာအဖိုးတန်သော ရတနာအမြုတေကို ဆောင်ထားသကဲ့သို့ အမှန်မုချ ကောင်းကျိုးချမ်းသာ ရရှိနိုင်ကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

ဤစာအုပ်တွင် မြတ်စွာဘုရား၏ တရားဒေသနာတော်များကို အပြည့်အစုံ မဖတ်နိုင်သေးသည့် သူများ ဖတ်ရှုထားနှင့်ရန် သင့်သည်ဟု သဘောရသော ဘဝကို အထင်မသေးရန်၊ ကိုယ့်ကိုယ်ကို တန်ဖိုးထားရန်၊ လူအချင်းချင်း ချစ်ခင်လေးစားရန်၊ ဗုဒ္ဓဘာသာ အခြေခံကို နားလည်ရန် စသည်တို့နှင့် စပ်သည့် သုတ် ငါးဆယ့်ငါးသုတ်ကို သင့်လျော်အံ့သော စာခေါင်းကလေးများ တပ်၍ ဘာသာပြန်ဆို ရေးသားထားပါသည်။ ယင်းသို့ ရေးသားရာ၌ အချို့သုတ်များကိုကား ဖတ်ရှုထားနှင့်ဖို့ ကောင်းသော စကားများကိုသာ ထုတ်နုတ်၍ ပြန်ဆိုရေးသားခြင်း ဖြစ်ပါသည်။

လူအများ နားလည်အောင် ပြန်ဆိုရေးသားခြင်းဖြစ်သောကြောင့် ပါဠိသွားအတိုင်း ပါဠိလျောက် မပြန်ဆိုဘဲ မြန်မာစကားသွားအတိုင်း ပြေပြစ်အောင် ပြန်ဆိုရေးသားထားပါသည်။ သို့ရာတွင် လိုအပ်သော စကားများကို ပြည့်စုံစွာ ပြန်ဆိုထားသည် ဖြစ်သောကြောင့် မြတ်စွာဘုရား မိန့်ကြားတော်မူချက်များဟူ၍ ယုံကြည်စိတ်ချစွာ ဖက်ရှုမှတ်သားနိုင်ကြပါသည်။

ဘာသာပြန်ဆိုရာ၌ လူအများ နည်းလည်မှုကိုအဓိကထားသည်ဖြစ်သောကြောင့် အချို့ခက်ခဲသော ပါဠိအသုံးအနှုန်းများကို မိမိနားလည်သလို မြန်မာအသုံးအနှုန်းများဖြင့် ပြန်ဆိုပါသည်။ ယင်းသို့ ပြန်ဆိုရာ၌လည်း ဆိုင်ရာ အဋ္ဌကထာ ဋီကာအဖွင့်ကျမ်းများကို ကြည့်ရှုပြီး ဆိုလိုသည့် အဓိပ္ပာယ်ကို မိမိနားလည်သလို ပြန်ဆိုခြင်း ဖြစ်ပါသည်။

ဗုဒ္ဓသာသနအဖွဲ့က ရိုက်နှိပ်သည် မြန်မာပြန်ဆိုချက်များနှင့်လည်း ညှိနှိုင်း တိုက်ဆိုင်ပါသည်။ သို့ရာတွင် အကယ်၍ မှားယွင်းချွတ်ချော်ချက်များ ပါရှိလျှင်ကား ဤစာအုပ် ရေးသူ၏ တာဝန်သာဖြစ်သည်ဟု မှတ်ယူစေချင်ပါသည်။

ဒဂုန် ဦးထွန်းမြင့်

၁၃၂၇ ခု၊ နတ်တော်လပြည့်ကျော် ၆ ရက်။

## အဆုံးအမတော်

မကောင်းမှုဟူသမျှကို မပြုခြင်း၊ ကုသိုလ်ကောင်းမှုကို ပြည့်စုံစေခြင်း၊ မိမိစိတ်ကို ဖြူစင်စေခြင်း၊ ဤကား ဘုရားရှင်တို့၏ အဆုံးအမတော်ပေတည်း။

ဓမ္မပဒ၊ ဗုဒ္ဓဝင်။

## ဘဝကို အထင်မသေးနှင့်

အခါတစ်ပါး၌ မြတ်စွာဘုရားသည် လက်သည်းခွံပေါ်၌ မြေမှုန့်အနည်းငယ် တင်ထားပြီး ရဟန်းတို့ကို ဤသို့ မိန့်ကြားတော်မူ၏။

`ရဟန်းတို့၊ မည်သို့ ထင်ကြသနည်း၊ လက်သည်းခွံပေါ်၌ ငါတင်ထားသော မြေမှုန့် အနည်းငယ်နှင့် မဟာပထဝီမြေကြီးရှိ မြေမှုန့်သည် ဘယ်အရာက ပို၍ များသနည်း။´

ဤသို့ မေးသောအခါ ရဟန်းတို့က -

`မြတ်စွာဘုရား၊ မဟာပထဝီမြေကြီးကသာ ပို၍ များပါသည်။ လက်သည်းခွံပေါ်၌ မြတ်စွာဘုရား တင်ထားသော မြေမှုန့်ကား အနည်းငယ်မျှသာ ရှိပါသည်။ မဟာပထဝီမြေကြီးနှင့် စာလျှင် မြတ်စွာဘုရား လက်သည်းခွံပေါ်၌ တင်ထားသည့် မြေမှုန့်ကလေးသည် အရေအတွက် မသွင်းလောက်ပါ။ နှိုင်းစရာဟုပင် မဆိုလောက်ပါဘုရား´ ဟု လျှောက်ထားကြလေ၏။

`ရဟန်းတို့၊ ဤဥပမာအတိုင်းပင် လူ့ဘုံ၌ဖြစ်သော သတ္တဝါတို့သည် အနည်းငယ်မျှသာ ရှိသည်။ စင်စစ်ကား အခြားသော ဘုံတို့၌ဖြစ်သော သတ္တဝါတို့က ပို၍ များကုန်၏။ ယင်းသို့

ဖြစ်ရခြင်းမှာ အဘယ့်ကြောင့်နည်းဟုဆိုလျှင် ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာ ဟူသော သစ္စာလေးပါး အမှန်တရားကို မသိကြသောကြောင့်ပင် ဖြစ်သည်။

ရဟန်းတို့၊ သို့ဖြစ်၍ ဤတရားသည် ဆင်းရဲခြင်း အမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲခြင်းဒုက္ခကို ဖြစ်စေတတ်သည့်အကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲဒုက္ခချုပ်ငြိမ်းရာ အမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲဒုက္ခချုပ်ငြိမ်းရာသို့ ရောက်စေတတ်သည့် လမ်းကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရမည်။´

မဟာဝဂ္ဂ သံယုတ် ပါဠိတော်၊ ၁၂- သစ္စသံယုတ်

၇- ပဌမအာမကဓညဝဂ်၊ ၁- အညတြသုတ်။

## ကိုယ့်ကိုယ်ကို တန်ဖိုးထားပါ

`ရဟန်းတို့၊ ဥပမာအားဖြင့် လူတစ်ယောက်သည် မဟာသမုဒ္ဒရာထဲ၌ အပေါက်တစ်ခု ရှိသော ထမ်းပိုးကို ပစ်ချရာ၏။ ထို ထမ်းပိုးပေါက်ကို အရှေ့လေက အနောက်ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ အနောက်လေက အရှေ့ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ တောင်လေက မြောက်ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ မြောက်လေက တောင်ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ ထိုသမုဒ္ဒရာထဲ၌ လိပ်ကန်းတစ်ကောင် ရှိသည်ဖြစ်ရာ၏။ ထိုလိပ်ကန်းသည် အနှစ်တစ်ရာကြာမှ တစ်ကြိမ် တစ်ကြိမ်သာ ပေါ်လာတတ်သည်ဖြစ်ရာ၏။

ရဟန်းတို့၊ မည်သို့ထင်ကြသနည်း။ အနှစ်တစ်ရာ အနှစ်တစ်ရာကြာမှ တစ်ကြိမ် တစ်ကြိမ်သာ ပေါ်လာတတ်သော လိပ်ကန်းသည် ထိုထမ်းပိုးပေါက်၌ လည်ပင်း စွပ်မိနိုင်ရာပါ သလော။´

ဤသို့ မြတ်စွာဘုရားက မေးတော်မူလေသည်။

`မြတ်စွာဘုရား၊ ကပ်ကမ္ဘာ အနန္တ ဘဝအသင်္ချေ နှစ်အရေအတွက်ပေါင်းများစွာ အလွန်ကြီးကြာကာမှ တစ်ခါတစ်လေ စွပ်မိနိုင်ကောင်းရာပါ၏ . . ဘုရား။´ ဟု ရဟန်းများက လျှောက်ထားကြလေ၏။

`ရဟန်းတို့၊ အနှစ်တစ်ရာ အနှစ်တစ်ရာကြာမှ တစ်ကြိမ်တစ်ကြိမ်သာ ပေါ်သော ထိုလိပ်ကန်းသည် ဤအပေါက်တစ်ခုသာရှိသော ထမ်းပိုး၌ လည်ပင်းစွပ်မိနိုင်ခြင်းက ဖြစ်ဖို့ လွယ်သေးသည်။ အပါယ်သို့ တစ်ကြိမ်ကျသွားသော လူမိုက်သည် လူ့အဖြစ်ကို ရဖို့ရန်ကား ထို့ထက်ပင် ပို၍ ခဲယဉ်းပေသည်။ အဘယ့်ကြောင့်ဆိုသော် ထိုအပါယ်ဘုံ၌ တရားနှင့်အညီကျင့်ခြင်း၊

မျှတခြင်း၊ ကုသိုလ်ကောင်းမှုပြုခြင်း မရှိ၊ အချင်းချင်းစားကာ ကြီးနိုင်ငယ်ညှဉ်း သတ်ဖြတ်နေကြသောကြောင့် ဖြစ်၏။

ရဟန်းတို့၊ ယင်းသို့ ဖြစ်ခြင်းမှာလည်း သစ္စာလေးပါး အမှန်တရားကို မသိမမြင်သောကြောင့် ဖြစ်သည်။

ရဟန်းတို့၊ ယင်းသို့ဖြစ်သော်ကြောင့် ဤတရားသည် ဆင်းရဲဒုက္ခကို ဖြစ်စေတတ်သည့် အကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရာ၏။ ဤတရားသည် ဆင်းရဲဒုက္ခကို ချုပ်ငြိမ်းရာသို့ ရောက်စေတတ်သည့် လမ်းကြောင်းအမှန်တည်းဟု သိအောင် အားထုတ်ရာ၏။´

မဟာဝဂ္ဂသံယုတ် ပါဠိတော်၊ ၁၂- သစ္စသံယုတ်၊
ပပါတဝဂ်၊ ၇- ပဌမ ဆိဂ္ဂဠယုဂသုတ်။

## အခွင့်ကောင်း မလွတ်စေနှင့်

`ရဟန်းတို့၊ ဥပမာအားဖြင့် ဤမဟာပထဝီမြေကြီးသည် တစ်ပြင်လုံး ရေတွေဖြစ်နေသည် ဆိုပါတော့၊ ထိုရေပြင်ကြီးထဲ၌ လူတစ်ယောက်သည် အပေါက်တစ်ခုရှိသော ထမ်းပိုးကို ပစ်ချရာ၏။ ထိုထမ်းပိုး ပေါက်ကို အရှေ့လေက အနောက်ဘက်ကို တိုက်ခတ်ပို့ဆောင်ရာ၏။ အနောက်လေက အရှေ့ဘက်ကို တိုက်ခတ်ပို့ဆောင်ရာ၏။ တောင်လေက မြောက်ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ မြောက်လေက တောင်ဘက်သို့ တိုက်ခတ်ပို့ဆောင်ရာ၏။ ထိုရေပြင်ကျယ်ကြီးအတွင်း၌ လိပ်ကန်းတစ်ကောင်ရှိသည်ဖြစ်ရာ၏။ ထိုလိပ်ကန်းသည် အနှစ်တစ်ရာ အနှစ်တစ်ရာ ကြာမှ တစ်ကြိမ် တစ်ကြိမ်သာ ပေါ်လာတတ်သည် ဖြစ်ရာ၏။

ရဟန်းတို့ မည်သို့ ထင်ကြသနည်း။ အနှစ်တစ်ရာ အနှစ်တစ်ရာကြာမှ တစ်ကြိမ် တစ်ကြိမ်သာ ပေါ်လာသော လိပ်ကန်းသည် ထိုထမ်းပိုးပေါက်ထဲ၌ ဦးခေါင်း စွပ်မိနိုင်ရာလော။´

ဤသို့ မြတ်စွာဘုရားက မေးတော်မူလေသည်။

`မြတ်စွာဘုရား၊ အနှစ်တစ်ရာ အနှစ်တစ်ရာကြာမှ တစ်ကြိမ် တစ်ကြိမ်သာ ပေါ်လာတတ်သော လိပ်ကန်းက ထိုထမ်းပိုးပေါက်၌ ဦးခေါင်းစွပ်မိသည့်အဖြစ်သည် အလွန် အကြောင်းတိုက်ဆိုင်မှသာ (ရေလည်းမခန်းပါမှ၊ ထမ်းပိုးလည်း မဆွေးပါမှ၊ လိပ်ကန်းလည်း မသေပါမှ) ဖြစ်နိုင်ရာပါသည် ဘုရား။´ ဟု ရဟန်းများက လျှောက်ထားကြကုန်၏။

`ရဟန်းတို့၊ ဤ ဥပမာအတိုင်းပင် လူ့ဘဝရသည့်အဖြစ်သည် အလွန် အကြောင်း တိုက်ဆိုင်မှသာ ဖြစ်နိုင်၏။

ရဟန်းတို့၊ ထိုဥပမာအတိုင်းပင် ပူဇော်အထူးကို ခံတော်မူထိုက်သော သစ္စာလေးပါး အမှန်တရားကို ကိုယ်တိုင် ထိုးထွင်း၍ သိတော်မူသော မြတ်စွာဘုရားပွင့်ခြင်းသည် အလွန် အကြောင်းတိုက်ဆိုင်မှသာ ဖြစ်နိုင်၏။

ရဟန်းတို့၊ ဤဥပမာအတိုင်းပင် လောက၌ မြတ်စွာဘုရားရှင်တို့ ဟောကြားတော်မူသည့် တရားအဆုံးအမ၊ ထွန်းပခြင်းသည် အလွန်အကြောင်းတိုက်ဆိုင်မှသာ ဖြစ်နိုင်၏။

ရဟန်းတို့၊ သို့ဖြစ်၍ ဤတရားသည် ဆင်းရဲခြင်းအမှန်တည်းဟု သိအောင် အားထုတ်ရာ၏။ ဤတရားသည် ဆင်းရဲဒုက္ခကို ဖြစ်စေတတ်သည့် အကြောင်းအမှန်တည်းဟု သိအောင် အားထုတ်ရာ၏။ ဤတရားသည် ဆင်းရဲဒုက္ခချုပ်ငြိမ်းရာ အမှန်တည်းဟု ဒုက္ခချုပ်ငြိမ်းရာသို့ ရောက်စေတတ်သည့် လမ်းကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရာ၏။ ´

မဟာဝဂ္ဂသံယုတ်ပါဠိတော်၊ ၁၂- သစ္စသံယုတ်၊
ပပါတဝဂ်၊ ၈- ဒုတိယ ဆိဂ္ဂဠယုဂသုတ်။

## တစ်ဖက်သားကို လေးစားပါ

`ရဟန်းတို့၊ ဤသံသရာကြီးသည် အစမရှိ၊ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့် ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းစုန်ဆန် အဖန်ဖန် အခါခါ ကျင်လည်၍နေကြသော သတ္တဝါတို့၏ အစဆုံးဖြစ်ရာဘဝသည် မထင်မြင်နိုင်။

ရဟန်းတို့၊ ဆင်းရဲသော လူတစ်ယောက်ကိုတွေ့လျှင် "ငါတို့လည်း အစမထင် သံသရာတစ်ခွင်၌ ဤကဲ့သို့ပင် ဆင်းရဲခဲ့ဖူးလှလေပြီ။" ဟု ဆုံးဖြတ်ရမည်။ အဘယ့်ကြောင့်ဆိုသော် ရဟန်းတို့ ဤသံသရာကြီးသည် အစမရှိ၊ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့်ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းစုန်ဆန် အဖန်ဖန် အခါခါ ကျင်လည်နေကြသော သတ္တဝါတို့၏ အဆုံဖြစ်ရာ ဘဝသည် မထင်မြင်နိုင်သောကြောင့်တည်း။

ရဟန်းတို့၊ ကပ်ကမ္ဘာအနန္တ ဘဝအသင်္ချေ နှစ်အရေအတွက်ပေါင်းများစွာ ရှည်ကြာသော ကာလပတ်လုံး သာမန်ဆင်းရဲမျိုးကို ခံစားခဲ့ရဖူးလှလေပြီ။ ပြင်းထန်သော ဆင်းရဲမျိုးကို ခံစားခဲ့ရဖူးလှလေပြီ။ သေကျေပျက်စီးခဲ့ဖူးလှလေပြီ။ သင်္ချိုင်းမြေပုံတိုးပွားကြီးမားလှလေပြီ။ ရဟန်းတို့၊ ဤသင်္ခါရတရား ဟူသမျှတို့၌ ငြီးငွေ့ခြင်းငှာ အလွန်ပင်သင့်လှသည်သာတည်း။ ဤသင်္ခါရတရား ဟူသမျှတို့၌ တွယ်တာမှု ကင်းခြင်းငှာ အလွန်ပင်သင့်လှသည်သာတည်း။ ဤ သင်္ခါရတရားတို့၌ လွတ်မြောက်အောင် ကြိုးစားခြင်းငှာ အလွန်ပင် သင့်လှသည်သာတည်း။

ရဟန်းတို့၊ ဤသံသရာသည် အစမရှိ။ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့် ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းစုန်ဆန် အဖန်ဖန် အခါခါကျင်လည်နေကြသော သတ္တဝါတို့၏ အစဆုံးဖြစ်ရာဘဝသည် မထင်မြင်နိုင်။

ရဟန်းတို့၊ ချမ်းသာသော လူတစ်ယောက်ကို မြင်လျှင် "ငါတို့လည်း အစမထင် သံသရာတစ်ခွင်၌ ဤသူကဲ့သို့ပင် ချမ်းသာဖူးခဲ့လှလေပြီ" ဟု ဆုံးဖြတ်ရမည်။ အဘယ့်ကြောင့် ဆိုသော် ရဟန်းတို့၊ ဤသံသရာကြီးသည် အစမရှိ၊ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့် ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်း စုန်ဆန် အဖန်ဖန် အခါခါ ကျင်လည်နေကြသော သတ္တဝါတို့၏ အစဆုံးဖြစ်ရာဘဝသည် မထင်မြင်နိုင်သောကြောင့်တည်း။

ရဟန်းတို့၊ ဤသံသရာကြီးသည် အစမရှိ။ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့် ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းစုန်ဆန် အဖန်ဖန် အခါခါ ကျင်လည်၍ နေကြသော သတ္တဝါတို့၏။ အစဆုံးဖြစ်ရာဘဝသည် မထင်မြင်နိုင်။

ရဟန်းတို့၊ အစမထင်သံသရာတစ်ခွင်၌ အမိမတော်ဖူးသောသူ မရှိနိုင်ချေ။ အဖ မတော်ဖူးသောသူ မရှိနိုင်ချေ။ အစ်ကိုမတော်ဖူးသောသူ မရှိနိုင်ချေ။ နှမ မတော်ဖူးသောသူမရှိနိုင်ချေ။ သားမတော်ဖူးသောသူ မရှိနိုင်ချေ။ သမီး မတော်ဖူးသောသူ မရှိနိုင်ချေ။ အဘယ့်ကြောင့်ဆိုသော် ရဟန်းတို့ ဤသံသရာကြီးသည် အစမရှိ အဝိဇ္ဇာဖုံးအုပ်လျက် တဏှာကြိုးဖြင့် ချည်နှောင်ကာ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းစုန်ဆန် အဖန်ဖန် အခါခါ ကျင်လည်၍ နေကြသော သတ္တဝါတို့၏ အစဆုံးဖြစ်ရာဘဝသည် မထင်မြင်နိုင်သောကြောင့်တည်း။

ရဟန်းတို့၊ ကပ်ကမ္ဘာအနန္တ ဘဝအသင်္ချေ နှစ်အရေအတွက်ပေါင်းများစွာ ရှည်ကြာသော ကာလပတ်လုံး သာမန်ဆင်းရဲမျိုးကို ခံစားခဲ့ရဖူးလှလေပြီ။ ပြင်းထန်သော ဆင်းရဲဒုက္ခမျိုးကို ခံစားခဲ့ရဖူးလှလေပြီ။ သေကျေပျက်စီးခဲ့ရဖူးလှလေပြီ၊ သင်္ချိုင်းမြေပုံတိုးပွားကြီးမားလှလေပြီ။ ရဟန်းတို့၊ ဤသင်္ခါရတရားဟူသမျှတို့၌ တွယ်တာမှုကင်းခြင်းငှာ အလွန်ပင် သင့်လှသည်သာတည်း။ ဤသင်္ခါရတရားဟူသမျှတို့မှ လွတ်မြောက်အောင် ကြိုးစားခြင်းငှာ အလွန်ပင် သင့်လှသည်သာတည်း။

နိဒါနဝဂ္ဂသံယုတ် ပါဠိတော်၊

အနမတဂ္ဂသံယုတ်၊ ဒုတိယဝဂ်။

## ကိုယ်ချင်းစာပါ

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ရဟန်းများနှင့်အတူ ကောသလတိုင်း၌ ဒေသစာရီ လှည့်လည်တော်မူရင်း ဝေဠုဒွါရဆိုသော ပြဟ္မဏရွာသို့ ဆိုက်ရောက်တော်မူသည်။ ဝေဠုဒွါရ ရွာသားတို့သည် မြတ်စွာဘုရားဆိုက်ရောက်တော်မူလာကြောင်း သိကြသောအခါ မြတ်စွာဘုရားထံ ဆည်းကပ်လာကြပြီးလျှင် မြတ်စွာဘုရားအား ဤသို့ လျှောက်ထားကြလေ၏။

`မြတ်စွာဘုရား၊ တပည့်တော်တို့သည် ဤသို့ ဖြစ်လိုကြသည်၊ ဤသို့ ဖြစ်စေချင်ကြ ပါသည်၊ ဤသို့ အလိုဆန္ဒရှိကြပါသည်၊ တပည့်တော်တို့သည် သားတွေ သမီးတွေ စုံစုံညီညီနှင့် နေလိုကြပါသည်၊ ကာသိတိုင်းဖြစ် စန္ဒကူးနံ့သာများကို သုံးလိုကြပါသည်၊ ပန်းနံ့သာ နံ့သာပျောင်း တို့ကို ပန်ဆင်လိမ်းခြယ်လိုကြပါသည်၊ ရွှေငွေများကို သုံးစွဲလိုကြပါသည်၊ ဤဘဝမှ စုတိမနေ သေလွန်သောအခါ နတ်ရွာသုဂတိသို့ ရောက်လိုကြပါသည်။

မြတ်စွာဘုရား၊ ဤသို့ဖြစ်လိုကြကုန်သော၊ ဤသို့ ဖြစ်စေချင်ကြကုန်သော၊ ဤသို့ အလိုဆန္ဒ ရှိကြကုန်သော တပည့်တော်တို့အား ထိုသို့ သားတွေသမီးတွေ စုံစုံညီညီနှင့် ပျော်ရွှင်ချမ်းသာစွာ နေပြီး သေလွန်သောအခါလည်း နတ်ပြည်သို့ ရောက်နိုင်သည့်တရားကို ဟောကြားတော်မူပါဘုရား။´

ထိုအခါ မြတ်စွာဘုရားက `ဒါယကာတို့၊ သင်တို့အား ကိုယ်ချင်းစာတရားကို ဟောကြားမည်။ နားထောင်ကြ။ ကောင်းစွာနှလုံးသွင်းကြ။ ငါဘုရားဟောကြားတော်မူမည်။´ ဟု မိန့်တော်မူလေသည်။

ထို့နောက် မြတ်စွာဘုရားသည် ဝေဠုဒွါရ ရွာသားတို့အား ကိုယ်ချင်းစာတရားကို အောက်ပါအတိုင်း ဟောကြားတော်မူသည်။

`ဒါယကာတို့၊ ကိုယ်ချင်းစာတရားဆိုသည်မှာ အဘယ်နည်းဟူမူကား -

၁။ ဒါယကာတို့ ဤလောက၌ မြတ်သော တပည့်သာဝကသည် ဤသို့စဉ်းစား၏။ စဉ်းစားပုံ- "ငါသည် အသက်ရှင်နေသည်။ မသေချင်။ ချမ်းသာစွာနေချင်သည်၊ ဆင်းရဲကို စက်ဆုပ်သည်။ တစ်စုံတစ်ယောက်သော သူသည် ဤသို့ အသက်ရှင်နေချင်သော၊ မသေချင်သော၊ ချမ်းသာစွာနေချင်သော၊ ဆင်းရဲကို စက်ဆုပ်သော ငါ့ကို သတ်မည်ဆိုလျှင် ယင်းသို့ သတ်ခြင်းကို ငါမကြိုက်ပေ၊ ငါကလည်း အသက်ရှင်နေချင်သော၊ မသေချင်သော၊ ချမ်းသာစွာနေချင်သော၊ ဆင်းရဲကို စက်ဆုပ်သော သူတစ်ပါးကို သတ်မည်ဆိုလျှင် ယင်းသို့သတ်ခြင်းကို သူတစ်ပါးလည်း ကြိုက်မည်မဟုတ်ပေ။ ငါမကြိုက်သောအရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သော အရာဖြင့် (ကိုယ့်ကို လုပ်လျှင် မခံချင်သည့်အလုပ်မျိုးဖြင့်) အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

ထိုသူသည် ဤသို့ စဉ်းစားဆင်ခြင်ကာ မိမိလည်း သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ သူတစ်ပါးကိုလည်း သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ရန် ဆောက်တည်စေ၏။ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်မှု၏ ဂုဏ်ကျေးဇူးကို ပြောကြား၏။ ဤသို့အားဖြင့် ထိုသူ၏ ကိုယ်ကျင့်ကောင်းခြင်းသည် အစွန်းသုံးပါးမှ စင်ကြယ်၏။

၂။ နောက်တစ်မျိုးကား၊ ဒါယကာတို့၊ မြတ်သောတပည့်သာဝကသည် ဤသို့ စဉ်းစား၏။ စဉ်းစားပုံ - "တစ်စုံတစ်ယောက်သောသူသည် ငါ့ပစ္စည်းကို ငါမပေးပဲ ခိုးယူမည်ဆိုလျှင် ယင်းသို့ ခိုးယူခြင်းကို ငါမကြိုက်ပေ။ ငါကလည်း သူတစ်ပါး၏ ပစ္စည်းကို သူမပေးဘဲ ခိုးယူမည်ဆိုလျှင် ယင်းသို့ ခိုးယူခြင်းကို သူတစ်ပါးလည်း ကြိုက်မည် မဟုတ်ပေ။ ငါမကြိုက်သောအရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

ထိုသူသည် ဤသို့စဉ်းစားဆင်ခြင်ကာ မိမိလည်း ပိုင်ရှင်မပေးသော သူ့ဉစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်၏။ သူတစ်ပါးကိုလည်း ပိုင်ရှင်မပေးသော သူ့ဉစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ရန် ဆောင်တည်စေ၏။ ပိုင်ရှင်မပေးသော သူ့ဉစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်မှု၏ ဂုဏ်ကျေးဇူးကို ပြောကြား၏။ ဤသို့အားဖြင့် ထိုသူ၏ ကိုယ်ကျင့်ကောင်းခြင်းသည် အစွန်းသုံးပါးမှ စင်ကြယ်၏။

၃။ နောက်တစ်မျိုးကား၊ ဒါယကာတို့၊ မြတ်သောတပည့်သာဝကသည် ဤသို့ စဉ်းစား၏။ စဉ်းစားပုံ - " တစ်စုံတစ်ယောက်သောသူသည် ငါ၏မယားကို ကျူးလွန်စော်ကားမည်ဆိုလျှင် ယင်းသို့ စော်ကားခြင်းကို ငါမကြိုက်ပေ။ ငါကလည်း သူတစ်ပါး၏မယားကို ကျူးလွန်စော်ကားမည်ဆိုလျှင် ယင်းသို့ စော်ကားခြင်းကို သူတစ်ပါးလည်း ကြိုက်မည် မဟုတ်ပေ။ ငါမကြိုက်သောအရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

ထိုသူသည် ဤသို့စဉ်းစားဆင်ခြင်ကာ မိမိလည်း ကာမတို့၌ ဖောက်ပြန်စွာကျင့်ခြင်းမှ ရှောင်ကြဉ်၏။ သူတစ်ပါးကိုလည်း ကာမတို့၌ ဖောက်ပြန်စွာ ကျင့်ခြင်းမှ ရှောင်ကြဉ်ရန် ဆောက်တည်စေ၏။ ကာမတို့၌ ဖောက်ပြန်စွာ ကျင့်ခြင်းမှ ရှောင်ကြဉ်မှု၏ ဂုဏ်ကျေးဇူးကို ပြောကြား၏။ ဤသို့အားဖြင့် ထိုသူ၏ ကိုယ်ကျင့်ကောင်းခြင်းသည် အစွန်းသုံးပါးမှ စင်ကြယ်၏။

၄။ နောက်တစ်မျိုးကား၊ ဒါယကာတို့၊ မြတ်သောတပည့်သာဝကသည် ဤသို့စဉ်းစား၏။ စဉ်းစားပုံ- " တစ်စုံတစ်ယောက်သော သူသည် မဟုတ်မမှန်ပြောဆိုခြင်းဖြင့် ငါ့အကျိုးစီးပွား ပျက်စီးအောင်လုပ်ခြင်းကို ငါမကြိုက်ပေ။ ငါကလည်း မဟုတ်မမှန်ပြောဆိုခြင်းဖြင့် သူ့အကျိုးစီးပွား ပျက်စီးအောင် လုပ်လျှင် ယင်းသို့ လုပ်ခြင်းကို သူတစ်ပါးလည်း ကြိုက်မည် မဟုတ်ပေ။ ငါမကြိုက်သောအရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

၅။ နောက်တစ်မျိုးကား၊ ဒါယကာတို့ မြတ်သောတပည့်သာဝကသည် ဤသို့စဉ်းစား၏။ စဉ်းစားပုံ-" တစ်စုံတစ်ယောက်သော သူသည် ငါ့ကို ကုန်းတိုက်သောစကားဖြင့် အဆွေခင်ပွန်းတို့နှင့် ကွဲအောင် လုပ်မည်ဆိုလျှင် ယင်းသို့ ကုန်းတိုက်ခြင်းဖြင့် အဆွေခင်ပွန်းတို့နှင့် ကွဲအောင်လုပ်ခြင်းကို ငါမကြိုက်ပေ။ ငါကလည်း ကုန်းတိုက်သောစကားဖြင့် သူတစ်ပါးကို အဆွေခင်ပွန်းနှင့် ကွဲအောင် လုပ်လျှင် ယင်းသို့လုပ်ခြင်းကို သူတစ်ပါးလည်းကြိုက်မည် မဟုတ်ပေ။ ငါမကြိုက်သော အရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

၆။ နောက်တစ်မျိုးကား၊ ဒါယကာတို့ မြတ်သောတပည့်သာဝကသည် ဤသို့စဉ်းစား၏။ စဉ်းစားပုံ-" တစ်စုံတစ်ယောက်သော သူသည် ငါ့ကို ရုန့်ရင်းကြမ်းတမ်းသော စကားဖြင့် ပြောဆို(ဆဲရေး) မည် ဆိုလျှင် ယင်းသို့ ရုန့်ရင်းကြမ်းတမ်းသော စကားဖြင့် ပြောဆို(ဆဲရေး) ခြင်းကို ငါမကြိုက်ပေ။ ငါကလည်း သူတစ်ပါးကို ရုန့်ရင်းကြမ်းတမ်းသောစကားဖြင့် ပြောဆို(ဆဲရေး) မည်ဆိုလျှင် ယင်းသို့ ဆဲရေးခြင်းကို သူတစ်ပါးလည်း ကြိုက်မည်မဟုတ်ပေ။ ငါမကြိုက်သောအရာကို သူတစ်ပါးလည်းမကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် အဘယ့်ကြောင့် သူတစ်ပါးအပေါ် ပြုလုပ်သင့်ပါမည်နည်း။"

၇။ နောက်တစ်မျိုးကား၊ ဒါယကာတို့ မြတ်သော တပည့်သာဝကသည် ဤသို့စဉ်းစား၏။ စဉ်းစားပုံ- " တစ်စုံတစ်ယောက်သော သူသည် ငါ့ကို အဆန်မပါသောစကားဖြင့် ပြောဆိုမည်ဆိုလျှင် ယင်းသို့ အဆန်မပါသောစကားဖြင့် ပြောဆိုခြင်းကို ငါမကြိုက်ပေ။ ငါကလည်း သူတစ်ပါးကို အဆန်မပါသောစကားဖြင့် ပြောဆိုခြင်းကို သူတစ်ပါးလည်း ကြိုက်မည် မဟုတ်ပေ။ ငါမကြိုက်သော အရာကို သူတစ်ပါးလည်း မကြိုက်ပေ။ ငါသည် ကိုယ်မကြိုက်သောအရာဖြင့် (ကိုယ့်ကိုလုပ်လျှင် မခံချင်သည့် အလုပ်မျိုးဖြင့်) အဘယ့်ကြောင့် သူတစ်ပါးအပေါ်ပြုလုပ်သင့်ပါမည်နည်း။"

ထိုသူသည် ဤသို့စဉ်းစားဆင်ခြင်ကာ မိမိလည်း (လိမ်ပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ဆဲရေးခြင်း) အဆန်မပါသောစကားပြောဆိုခြင်းမှ ရှောင်ကြဉ်၏။ သူတစ်ပါးကိုလည်း (လိမ်ပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ဆဲရေးခြင်း) အဆန်မပါသော စကားပြောဆိုခြင်းမှ ရှောင်ကြဉ်ရန် ဆောက်တည်စေ၏။ (လိမ်ပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ဆဲရေးခြင်း) အဆန်မပါသောစကားပြောခြင်းမှ ရှောင်ကြဉ်မှု၏ ဂုဏ်ကျေးဇူးကို ပြောကြား၏။ ဤသို့အားဖြင့် ထိုသူ၏ နှုတ်ကျင့်ကောင်းခြင်းသည် အစွန်းသုံးပါးမှ စင်ကြယ်၏။

ထိုမြတ်သော တပည့်သာဝကသည် မြတ်စွာဘုရား၌လည်း ဂုဏ်တော်ကို တွေး၍ မတုန်မလှုပ် သက်ဝင်ကြည်ညို၏။ တရားတော်၌လည်း ဂုဏ်တော်ကိုတွေး၍ မတုန်မလှုပ် သက်ဝင်ကြည်ညို၏။ သံဃာတော်၌လည်း ဂုဏ်တော်ကိုတွေး၍ မတုန်မလှုပ် သက်ဝင်ကြည်ညို၏။ အရိယာတို့ နှစ်သက်အပ်သည့်သီလကိုလည်း မကျိုးမပေါက် မပြောက်မကျားအောင် ဖြည့်ကျင့်၏။

ဒါယကာတို့၊ မြတ်သော တပည့်သာဝကသည် ယခုဆိုခဲ့သည့် ကိုယ့်ကျင့်ကောင်းခြင်း၊ နှုတ်ကျင့်ကောင်းခြင်းဟူသော သူတော်ကောင်းတရား ခုနစ်ပါးနှင့်လည်း ပြည့်စုံ၏။ ဘုရား၊ တရား သံဃာ၌ မတုန်မလှုပ် သက်ဝင်ကြည်ညိုခြင်း သီလကို ဖြည့်ကျင့်ခြင်းဟူသော လိုလားအပ်သည့် တရားလေးပါးနှင့်လည်း ပြည့်စုံ၏။ ယင်းသို့ ပြည့်စုံသောကြောင့် ထိုသူသည် အကယ်၍ ပြောဆိုလျှင် မိမိကိုယ်မိမိ " ငါသည် ငရဲကျရောက်မှုမှ လွတ်ငြိမ်းပြီး၊ တိရစ္ဆာန်မျိုး၌ ဖြစ်ခြင်းမှ လွတ်ငြိမ်းပြီ။ ပြိတ္တာမျိုး၌ ဖြစ်ခြင်းမှ လွတ်ငြိမ်းပြီ။ အပါယ်လေးပါးလားရခြင်းမှ လွတ်ငြိမ်းပြီ။ ငါသည် သောတာပန်ဖြစ်ပြီ။ ဒုဂ္ဂတိဘဝသို့ ကျခွင့်မရှိတော့ပြီ။ သုဂတိဘုံဘဝသို့သာ လားရန် စိတ်ချရပြီ။ အထက်မဂ်သုံးပါးသို့ ရောက်ရန် သေချာပြီ " ဟု ပြောနိုင်လေပြီ ´

မဟာဝဂ္ဂသံယုတ်ပါဠိတော်၊
သောတာပတ္တိသံယုတ်၊ ဝေဠုဒွါရဝဂ်။

## မိတ်ဆွေကောင်း အရေးကြီးသည်

မြတ်စွာဘုရားသည် သက္ကတတိုင်း၊ သက္ကရအမည်ရှိသော နိဂုံး၌ သီတင်းသုံးတော်မူစဉ် ရှင်အာနန္ဒာက ဤသို့ လျှောက်သည်။ `မြတ်စွာဘုရား၊ မိတ်ဆွေကောင်းရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်း ရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်းတို့၌ ကိုင်းရှိုင်းသည့်အဖြစ်သည် မြတ်သောအကျင့်ကို ကျင့်ရာ၌ ထက်ဝက်အကျိုးပြီး ပါသည် ဘုရား။´

ယင်းသို့ လျှောက်သောအခါ မြတ်စွာဘုရားက-

`အာနန္ဒာ၊ သည်လို မပြောနှင့်။ အာနန္ဒာ၊ သည်လိုမပြောနှင့်။ အာနန္ဒာ၊ မိတ်ဆွေကောင်း ရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်း ရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်းတို့၌ ကိုင်းရှိုင်းသည့် အဖြစ်သည် မြတ်သောအကျင့်ကို ကျင့်ရာ၌ အလုံးစုံပြီး၏။ အာနန္ဒာ၊ ဤစကားကို ယခုပြောမည့် အကြောင်း ပရိယာယ်ဖြင့် သိအပ်၏။ အာနန္ဒာ၊ ငါဘုရားတည်းဟူသော မိတ်ဆွေကောင်းကို အကြောင်းပြု၍ ပဋိသန္ဓေနေခြင်း သဘောရှိသော သတ္တဝါတို့သည် ပဋိသန္ဓေနေခြင်းမှ လွတ်မြောက်ကုန်၏။ အိုခြင်း သဘောရှိသော သတ္တဝါတို့သည် အိုခြင်းမှ လွတ်မြောက်ကုန်၏။ သေခြင်းသဘော ရှိသော သတ္တဝါတို့သည် သေခြင်းမှ လွတ်မြောက်ကုန်၏။ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာ ပင်ပန်းခြင်း သဘောရှိကုန်သော သတ္တဝါတို့သည် စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာ ပင်ပန်းခြင်း မှ လွတ်မြောက် ကုန်၏။ အာနန္ဒာ၊ ယခုပြောသည့်အကြောင်း ပရိယာယ်အားဖြင့် မိတ်ဆွေကောင်းရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်း ရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်းတို့၌ ကိုင်းရှိုင်းသည့်အဖြစ်သည် မြတ်သောအကျင့်ကို ကျင့်ရာ၌ အလုံးစုံအကျိုးပြီး၏ ဟူ၍ သိအပ်၏။´

သံယုတ္တနိကာယ်၊ မဟာဝဂ္ဂသံယုတ်ပါဠိတော်၊

၁- မဂ္ဂသံယုတ်၊ ၁- အဝိဇ္ဇာဝဂ်၊ ၂- ဥပဍ္ဎသုတ်။

## ကံသည် အကျိုးမဲ့ မပျောက်

`ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ် ပြုလုပ်အပ်သောကံသည် အကျိုးမခံစား ရဘဲ ပျောက်ပျက်မသွားပေ။ ယင်းကံ၏အကျိုးကို ယခုဘဝ၌သော်လည်းကောင်း၊ နောင်ဘဝ၌သော် လည်းကောင်း အဆက်ဆက်သော ဘဝ၌သော်လည်းကောင်း ခံစားရ၏။ ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ်ပြုလုပ်အပ်သော ကံတို့၏အကျိုးကို မခံစားရဘဲ ဝဋ်ဆင်းရဲ၏ ဆုံးမမှုပြုနိုင်ခြင်းကို ငါမဆို။

ရဟန်းတို့၊ ကံတို့တွင် ကာယကံပျက်စီးမှု သုံးမျိုး၊ ဝစီကံပျက်စီးမှု လေးမျိုး၊ မနောကံပျက်စီးမှု သုံးမျိုးတို့သည် အကုသိုလ်စေတနာလှုံ့ဆော်မှုရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်၏။ ဆင်းရဲကျိုးရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် ကာယကံပျက်စီးမှုသုံးမျိုးသည် အကုသိုလ်စေတနာ လှုံ့ဆော်မှုရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်သနည်း။ ဆင်းရဲကျိုးရှိသနည်းဟူကား ..

ဤလောက၌ အချို့သောသူသည် -

၁။ သူ့အသက်ကို သတ်လေ့ရှိ၏။ ကြမ်းတမ်း၏။ သွေးစွန်းသောလက်ရှိ၏။ သတ်ဖြတ်ရိုက်နှက်မှု၌ စိတ်ဝင်စား၏။ သတ္တဝါများအပေါ်မသနားတတ်။

၂။ ပိုင်ရှင်မပေးသော သူ့ဥစ္စာကို ခိုးလေ့ရှိ၏။ မြို့ရွာ၌ဖြစ်စေ တော၌ ဖြစ်စေ တည်ရှိသော သူတစ်ပါး၏နစ်သက်ဖွယ်ပစ္စည်းအသုံးအဆောင် အဆောက်အအုံကို သူမပေးဘဲ ခိုးလိုသောစိတ်ဖြင့် ယူ၏။

၃။ ကာမတို့၌ မှားယွင်းစွာကျင့်၏။ အုပ်ထိန်းခြင်းမကင်းသော အမျိုးသမီးတို့ကို ဖျက်ဆီး၏။ ရဟန်းတို့၊ ဤသို့လျှင် ကာယကံပျက်စီးမှုသုံးမျိုးသည် အကုသိုလ်စေတနာ လှုံ့ဆော်မှုရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်၏။ ဆင်းရဲကျိုး ရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် ဝစီကံပျက်စီးမှု လေးမျိုးသည် အကုသိုလ်စေတနာ လှုံ့ဆော်မှုရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်သနည်း။ ဆင်းရဲကျိုး ရှိသနည်း ဟူ မူကား ....

ဤလောက၌ အချို့သောသူသည် -

၁။ မဟုတ်မမှန်ပြောလေ့ရှိ၏။ ပရိသတ်အလယ်၌ သက်သေအဖြစ် အမေးခံရလျှင် မသိသည်ကို `ငါသိသည်´ ဟုလည်းကောင်း၊ သိသည်ကို `ငါမသိ´ ဟုလည်းကောင်း၊ မမြင်သည်ကို

`ငါမြင်သည်´ ဟုလည်းကောင်း၊ မြင်သည်ကို `ငါမမြင်´ ဟုလည်းကောင်း ဤသို့ မိမိအတွက်ကြောင့် ဖြစ်စေ၊ သူတစ်ပါးအတွက်ကြောင့် ဖြစ်စေ၊ တံစိုးလက်ဆောင်ကြောင့် ဖြစ်စေ သိလျက် မဟုတ်မမှန် ပြောလေ့ရှိ၏။

၂။ ကုန်းတိုက်သော စကားကို ပြောတတ်ကြ၏။ တစ်ယောက်ထံမှ နားထောင်ပြီး အခြားတစ်ယောက်ထံ သူတို့အချင်းချင်း ကွဲပြားစေရန် ပြောကြားတတ်၏။ ညီညွတ်သောသူတို့ကို ကွဲပြားအောင် လုပ်တတ်၏။ ကွဲပြားသောသူတို့ကိုလည်း အားပေးအားမြှောက်လုပ်တတ်၏။ သူတစ်ပါးကွဲပြားခြင်း၌ မွေ့လျော်ပျော်ပိုက် နှစ်ခြိုက်တတ်၏။ ကွဲပြားရေးစကားကို ဆိုတတ်၏။

၃။ ရုန့်ရင်းကြမ်းတမ်းသောစကားရှိ၏။ အပြစ်ရှိသောစကားမျိုး၊ ကြမ်းတမ်းသော စကားမျိုး၊ သူတစ်ပါး နားမခံသာသော စကားမျိုး၊ သူတစ်ပါးကို ထိခိုက်သောစကားမျိုး၊ စိတ်ဆိုးစရာစကားမျိုး၊ တည်ငြိမ်မှုကို မဖြစ်စေတတ်သောစကားမျိုးကို ဆိုတတ်၏။

၄။ အဆန်မပါသော စကားကို ဆိုလေ့ရှိ၏။ အခါမဟုတ်သည်၌ ဆိုလေ့ရှိ၏။ အကျိုးမဲ့၊ တရားမဲ့၊ အကြောင်းမဲ့၊ အပိုင်းအခြားမဲ့ကို ဆိုလေ့ရှိ၏။ အစီးအပွားမဲ့နှင့်စပ်သော မှတ်သားဖွယ် မရှိသောစကားကို ဆိုလေ့ရှိ၏။ ရဟန်းတို့ ဤသို့လျှင် ဝစီကံပျက်စီးမှုလေးမျိုးသည် အကုသိုလ်စေတနာ လှုံ့ဆော်မှုရှိသည် ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်၏။ ဆင်းရဲကျိုးရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် မနောကံပျက်စီးမှု သုံးမျိုးသည် အကုသိုလ် စေတနာ လှုံ့ဆော်မှုရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်သနည်း။ ဆင်းရဲကျိုးရှိသနည်းဟူမူကား ...

ဤလောက၌ အချို့သောသူသည် -

၁။ အဘိဇ္ဈာများ၏။ သူတစ်ပါး၏စည်းစိမ် အဆောက်အအုံကို "ငါ့ဥစ္စာဖြစ်လျှင် ကောင်းလေစွ" ဟု ရှေးရှုကြံတတ်၏။

၂။ ဖျက်ဆီးလိုသောစိတ် ရှိ၏။ ဤသတ္တဝါတို့ကို သတ်ကြပါစေ၊ ဖြတ်ကြပါစေ၊ ဖမ်းကြပါစေဟု ဖျက်ဆီးလိုသောစိတ် အကြံရှိ၏။

၃။ မှားသောအယူရှိ၏။ အလှူဒါနအကျိုး မရှိ၊ နောက်ဘဝ မရှိ၊ နတ်ပြည် မရှိ၊ ငရဲပြည် မရှိ စသည်ဖြင့် ဖောက်ပြန်သောအယူရှိ၏။ ရဟန်းတို့၊ ဤသို့လျှင် မနောကံပျက်စီးမှု သုံးမျိုးသည် အကုသိုလ်စေတနာလှုံ့ဆော်မှု ရှိသည်ဖြစ်၍ ဆင်းရဲကို ဖြစ်စေတတ်၏။ ဆင်းရဲကျိုး ရှိ၏။

ရဟန်းတို့၊ ကာယကံပျက်စီးမှု သုံးမျိုးဟုဆိုအပ်သော အကုသိုလ် လှုံ့ဆော်မှုဟူသော အကြောင်းကြောင့် ဝစီကံပျက်စီးမှု လေးမျိုးဟု ဆိုအပ်သော အကုသိုလ်လှုံ့ဆော်မှုဟူသော အကြောင်းကြောင့် မနောကံပျက်စီးမှု သုံးမျိုးဟု ဆိုအပ်သော အကုသိုလ်လှုံ့ဆော်မှု ဟူသော

အကြောင်းကြောင့် သတ္တဝါတို့သည် ခန္ဓာကိုယ်ပျက်စီး၍ သေသည်မှ နောက်၌ မကောင်းသူတို့၏ လားရာ ဖရိုဖရဲပျက်စီး၍ ကျရောက်ရာ အပါယ် ငရဲ ဖြစ်ကြကုန်၏။

ရဟန်းတို့၊ ဥပမာအားဖြင့် မျက်နှာပြင်လေးဘက် ရှိသော ကျောက်အန်စာသည် အထက်သို့ မြှောက်ပစ်လိုက်သည်ရှိသော် မည်သည့်မျက်နှာဘက်ဖြင့် ကျကျ ကောင်းစွာတည်သကဲ့သို့ ဤအတူပင် ကာယကံပျက်စီးမှုသုံးမျိုး၊ ဝစီကံပျက်စီးမှုလေးမျိုး၊ မနောကံပျက်စီးမှုသုံးမျိုးဟု ဆိုအပ်သော အကုသိုလ်လှုံ့ဆော်မှုဟူသော အကြောင်းကြောင့် သတ္တဝါတို့သည် ခန္ဓာကိုယ်ပျက်စီး၍ သေသည်မှနောက်၌ မကောင်းသူတို့၏လားရာ ဖရိုးဖရဲပျက်စီး၍ ကျရောက်ရာ အပါယ်ငရဲ၌ ဖြစ်ရကုန်၏။

ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ် ပြုလုပ်အပ်သောကံသည် အကျိုးမခံစားရဘဲ ပျောက်ပျက်မသွားပေ၊ ယင်းကံ၏ အကျိုးကို ယခုဘဝ၌လည်းကောင်း၊ နောက်ဘဝ၌သော် လည်းကောင်း အဆက်ဆက်သော ဘဝ၌သော်လည်းကောင်း ခံစားရ၏။ ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ် ပြုလုပ်အပ်သော ကံတို့၏အကျိုးကို မခံစားရဘဲ ဝဋ္ဋဆင်းရဲဆုံးမှု ပြုနိုင်ခြင်းကို ငါမဆို။

ရဟန်းတို့၊ ကံတို့တွင် ကာယကံ ပြည့်စုံမှုသုံးမျိုး၊ ဝစီကံ ပြည်စုံမှုလေးမျိုး၊ မနောကံ ပြည့်စုံမှုသုံးမျိုးတို့သည် ကုသိုလ်စေတနာလှုံ့ဆော်မှုရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်၏။ ချမ်းသာကျိုးရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် ကာယကံပြည့်စုံမှု သုံးမျိုးသည် ကုသိုလ်စေတနာ လှုံ့ဆော်မှု ရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်သနည်း။ ချမ်းသာကျိုးရှိသနည်း ဟူမူကား ....

ဤလောက၌ အချို့သောသူသည် -

၁။ သူ့အသက် သတ်ခြင်းမှ ရှောင်ကြဉ်၏။ တုတ် ဓား လက်နက်ကိုချထားပြီး ဖြစ်၏။ အရှက်ရှိ၏။ သနားကြင်နာတတ်၏။ သတ္တဝါများအပေါ်၌ အကျိုးစီးပွားလိုလားသောစိတ်ရှိ၏။

၂။ ပိုင်ရှိမပေးသော သူ့ဥစ္စာကိုခိုးယူခြင်းမှ ရှောင်ကြဉ်၏။ မြို့ရွာ၌ဖြစ်စေ၊ တော၌ဖြစ်စေ တည်ရှိသော သူတစ်ပါးတို့၏ နှစ်သက်ဖွယ်ပစ္စည်းအသုံးအဆောင်၊ အဆောက်အအုံကို သူမပေးဘဲ ခိုးလိုသောစိတ်ဖြင့် မယူ၊

၃။ ကာမတို့၌ မှားယွင်းစွာကျင့်ခြင်းကို ပယ်၍ ကာမတို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ရှောင်ကြဉ်၏။ အုပ်ထိန်းခြင်းမကင်းသော အမျိုးသမီးတို့ကို မဖျက်ဆီး။ ရဟန်းတို့၊ ဤသို့လျှင် ကာယကံပြည့်စုံမှု သုံးမျိုးသည် ကုသိုလ်စေတနာလှုံ့ဆော်မှုရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်၏။ ချမ်းသာကျိုးရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် ဝစီကံပြည့်စုံမှုလေးမျိုးသည် ကုသိုလ်စေတနာ လှုံ့ဆော်မှု ရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်သနည်း၊ ချမ်းသာကျိုးရှိသနည်း ဟူ မူကား.........

ဤလောက၍ အချို့သောသူသည် -

၁။ မဟုတ်မမှန်ပြောဆိုခြင်းကို ပယ်၍ မဟုတ်မမှန် ပြောခြင်းမှ ရှောင်ကြဉ်၏။ ပရိသတ်အလယ်၌ သက်သေအဖြစ်အမေးခံရလျှင် မသိသည်ကို `ငါသိ၏´ ဟုလည်းကောင်း၊ သိသည်ကို `ငါမသိ´ ဟုလည်းကောင်း၊ မမြင်သည်ကို `ငါမြင်၏´ဟုလည်းကောင်း၊ မြင်သည်ကို `ငါမမြင်´ ဟုလည်းကောင်း ဤသို့ မိမိအတွက်ကြောင့် ဖြစ်စေ၊ တံစိုးလက်ဆောင်ကြောင့် ဖြစ်စေ၊ သူတစ်ပါးအတွက်ကြောင့် ဖြစ်စေသိလျက် မဟုတ်မမှန်ပြောလေ့မရှိ။

၂။ ကုန်းတိုက်သောစကားကိုပယ်၍ ကုန်းတိုက်ခြင်းမှ ရှောင်ကြဉ်၏။ တစ်ယောက်ထံမှ နားထောင်ပြီး အခြားတစ်ယောက်ထံသူတို့အချင်းချင်း ကွဲပြားစေရန် မပြောကားတတ်၊ ညီညွတ်သောသူတို့ကို ကွဲပြားအောင် မလုပ်တတ်၊ ကွဲပြားသော သူတို့ကိုလည်း အားပေး အားမြှောက်မလုပ်တတ်၊ ညီညွတ်ခြင်း၌ မွေ့လျော်ပျော်ပိုက် နှစ်မြို့က်တတ်၏။ ညီညွတ်ရေးစကားကို ဆိုတတ်၏။

၃။ ရန့်ရင်းကြမ်းတမ်းသော စကားကိုပယ်၍ ရန့်ရင်းကြမ်းတမ်းစွာ ပြောခြင်းမှ ရှောင်ကြဉ်၏။ အပြစ်ကင်းသော စကားမျိုး၊ နားချမ်းသာသော စကားမျိုး၊ နှစ်လိုဖွယ်ကောင်းသော စကားမျိုး၊ မနောတွေ့မည့်စကားမျိုး၊ ခြေငံသော စကားမျိုး၊ လူတိုင်းနှစ်သက် သဘောကျသော စကားမျိုးကို ဆိုတတ်၏။

၄။ အဆန်မပါသော စကားကို ဆိုခြင်းမှ ရှောင်ကြဉ်၏။ ပြောသင့်သောအခါ၌ ပြောလေ့ရှိ၏။ ဟုတ်မှန်သည်ဟု ဆိုလေ့ရှိ၏။ အကျိုးရှိသည်ကို အကြောင်းရှိသည်ကို ဆိုလေ့ရှိ၏။ အပိုင်းအခြားရှိသည်ကို ဆိုလေ့ရှိ၏။ အစီးအပွားနှင့် စပ်သော စကားကို ဆိုလေ့ရှိ၏။ ရဟန်းတို့၊ ဤသို့ဆိုလျှင် ဝစီကံပြည့်စုံမှု လေးမျိုးသည် ချမ်းသာကို ဖြစ်စေတတ်၏။ ချမ်းသာကျိုးရှိ၏။

ရဟန်းတို့၊ အဘယ်သို့လျှင် မနောကံပြည့်စုံမှုသုံးမျိုးသည် ကုသိုလ်စေတနာ လှုံ့ဆော်မှုရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်သနည်း၊ ချမ်းသာကျိုးရှိသနည်း ဟူမူကား ....

ဤလောက၌ အချို့သောသူသည် -

၁။ အဘိဇ္ဈာမများ၊ သူတစ်ပါး၏ စည်းစိမ် အဆောက်အအုံကို `ငါ့ဉစ္စာဖြစ်လျှင် ကောင်းလေစွ´ ဟု ရှေးရှုမကြံ၊

၂။ ဖျက်ဆီးလိုသောစိတ် မရှိ၊ ဤသတ္တဝါတို့သည် ဘေးရန်ကင်းကြပါစေ၊ ကြောင့်ကြကင်းကြပါစေ၊ ဆင်းရဲကင်းကြပါစေ၊ မိမိကိုယ်ကို ချမ်းသာစွာ ဆောင်ရွက်နိုင်ကြပါစေ ဟု မွန်မြတ်သော စိတ်ထားရှိ၏။

၃။ မှန်ကန်သော အယူရှိ၏။ အလှူဒါန၏ အကျိုးရှိသည်၊ နောက်ဘဝရှိသည်။ နတ်ပြည်ရှိသည်။ ငရဲပြည်ရှိသည်။ စသည်ဖြင့် မှန်ကန်သော အယူရှိ၏။ ရဟန်းတို့၊ ဤသို့လျှင် မနောကံပြည့်စုံမှု သုံးမျိုးသည် ကုသိုလ်စေတနာလှုံ့ဆော်မှုရှိသည်ဖြစ်၍ ချမ်းသာကို ဖြစ်စေတတ်၏။ ချမ်းသာကျိုးရှိ၏။

ရဟန်းတို့၊ ကာယကံပြည့်စုံမှု သုံးမျိုးဟုဆိုအပ်သော ကုသိုလ်စေတနာ လှုံ့ဆော်မှုဟူသော အကြောင်းကြောင့်၊ ဝစီကံပြည့်စုံမှုလေးမျိုးဟု ဆိုအပ်သော ကုသိုလ်စေတနာလှုံ့ဆော်မှုဟူသော အကြောင်းကြောင့်၊ မနောကံပြည့်စုံမှုသုံးမျိုးဟု ဆိုအပ်သော ကုသိုလ်စေတနာလှုံ့ဆော်မှုဟူသော အကြောင်းကြောင့် သတ္တဝါတို့သည် ခန္ဓာကိုယ်ပျက်စီး၍ သေသည်မှ နောက်၌ ကောင်းသောသူတို့၏ လားရာ နတ်ပြည်လောက၌ ဖြစ်ကုန်၏။

ရဟန်းတို့၊ ဥပမာအားဖြင့် မျက်နှာပြင်လေးဘက် ရှိသော ကျောက်အန်စာသည် အထက်သို့ မြှောက်ပစ်လိုက်သည်ရှိသော် မည်သည့်မျက်နှာဘက်ဖြင့် ကျကျ ကောင်းစွာတည်သကဲ့သို့ ဤအတူပင် ကာယကံပြည့်စုံမှုသုံးမျိုး၊ ဝစီကံပြည့်စုံမှုလေးမျိုး၊ မနောကံပြည့်စုံမှု သုံးမျိုးဟု ဆိုအပ်သော ကုသိုလ်လှုံ့ဆော်မှုဟူသော အကြောင်းကြောင့် သတ္တဝါတို့သည် ခန္ဓာကိုယ် ပျက်စီး၍ သေသည်မှနောက် ကောင်းသောသူတို့၏ လားရာ နတ်ပြည်လောက၌ ဖြစ်ကုန်၏။

ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ်ပြုလုပ်အပ်သောကံသည် အကျိုးမခံစားရဘဲ ပျောက်ပျက်မသွားပေ။ ယင်းကံ၏အကျိုးကို ယခုဘဝ၌သော်လည်းကောင်း၊ နောက်ဘဝ၌သော် လည်းကောင်း၊ အဆက်ဆက်သော ဘဝ၌သော်လည်းကောင်း ခံစားရ၏။ ရဟန်းတို့၊ စေတနာ လှုံ့ဆော်၍ ဆည်းပူးအားထုတ်ပြုလုပ်အပ်သော ကံတို့၏ အကျိုးကို မခံစားရဘဲ ဝဋ်ဆင်းရဲ ကင်းမှုပြုနိုင်ခြင်းကို ငါမဆို။´

ဒသအင်္ဂုတ္တိုရ် ပါဠိတော် စတုတ္ထပဏ္ဏာသက၊

ကရဇကာယဝဂ်၊ ပဌမသဉ္စေတနိကသုတ်။

## အလှူကို မတားမြစ်နှင့်

အခါတစ်ပါး၌ ဝစ္ဆအမည်ရှိသော ပရိဗိုဇ်သည် မြတ်စွာဘုရားထံ ဆည်းကပ်၍ သူကြားသည့်သတင်းကို မေးမြန်းလျှောက်ထားလေသည်။

မေးလျှောက်ပုံ -

`အရှင်ဘုရား၊ ရဟန်းဂေါတမသည် "ငါ့ကိုသာလှူရမည်၊ အခြားသော တိတ္ထိတို့ကို မလှူရ၊ ငါ့တပည့်သာဝကတို့ကိုသာ လှူရမည်၊ အခြားသော တိတ္ထိတပည့်တွေကို မလှူရ၊ ငါ့ကိုလှူသော အလှူသာ အကျိုးကြီးသည်၊ အခြားသော တိတ္ထိတို့ကိုလှူသော အလှူသည် အကျိုးမကြီး၊ ငါ့တပည့်သာဝကတို့ကို လှူသောအလှူသာ အကျိုးကြီးသည်၊ အခြားသော တိတ္ထိတပည့်တို့ကို လှူသောအလှူကား အကျိုးမကြီး" ဟု မိန့်ကြားသည်ဟူ၍ တပည့်တော်ကြားရပါသည်။ ဤသို့ တပည့်တော်ကြားသည့်အတိုင်း မြတ်စွာဘုရားသည် " ငါနှင့် ငါ့တပည့်သာဝကတို့ကိုသာ လှူကြ၊ အခြားသောတိတ္ထိများနှင့် သူတို့၏တပည့်တွေကို မလှူကြပါနှင့်၊ ငါနှင့် ငါ့တပည့်သာဝကို့ကို လှူသော အလှူသာ အကျိုးကြီးသည်၊ အခြားသော တိတ္ထိများနှင့် သူတို့၏တပည့်တို့ကို လှူသောအလှူသည် အကျိုးမကြီး " ဟု မိန့်ကြားတော်မူသည် ဆိုသည်မှာ မှန်ပါသလား။ ယင်းသို့ မြတ်စွာဘုရားက မိန့်ကြားသည်ဟု ပြောကြသောသူတို့သည် မှန်သည့်အတိုင်း ပြောကြခြင်းပင် ဖြစ်ပါသလား။ သို့မဟုတ် ထိုသူတို့သည် မြတ်စွာဘုရားကို မဟုတ်မမှန်စွပ်စွဲပြောဆိုကြခြင်းပင် ဖြစ်ပါသလား။´

ထိုအခါ မြတ်စွာဘုရားက ဤသို့ မိန့်ကြားတော်မူသည်။

`ဝစ္ဆ၊ ရဟန်းဂေါတမသည် "ငါ့ကိုသာလှူရမည်။ အခြားသော တိတ္ထိတို့ကိုမလှူရ။ ငါ့တပည့်သာဝကတို့ကိုသာ လှူရမည်။ အခြား တိတ္ထိတပည့်တို့ကို မလှူရ။ ငါ့ကိုလှူသောအလှူသာ အကျိုးကြီးသည်။ အခြားသော တိတ္ထိတို့ကို လှူသော အလှူသည် အကျိုးမကြီး။ ငါ့တပည့်သာဝကတို့ကို လှူသောအလှူသာ အကျိုးကြီးသည်။ အခြားသော တိတ္ထိတပည့်တို့ကို လှူသောအလှူအကား အကျိုးမကြီး" ဟု မိန့်ကြားသည်ဟူ၍ ပြောကြသော သူတို့သည် မှန်သည့်အတိုင်း ပြောကြခြင်းမဟုတ်။ ထိုသူတို့သည် ငါဘုရားကို မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းသာဖြစ်သည်။

ဝစ္ဆ၊ အလှူဒါနကို တားမြစ်သောသူသည် အချက်သုံးမျိုး၏ အန္တရာယ်ကို ပြုသည် မည်၏။

၁။ အလှူပေးသူ ဒါယကာ၏ကောင်းမှုအန္တရာယ်ကို ပြုသည်မည်၏။

၂။ အလှူခံပုဂ္ဂိုလ်၏ လာဘ်လာဘ အန္တရာယ်ကိုပြုသည် မည်၏။

၃။ မိမိကိုယ်ကိုလည်း ဖျက်ဆီးသည်မည်၏။

ဝစ္ဆ၊ ငါဘုရားသည် စင်စစ်အားဖြင့် ဤသို့ ဟော၏။ အိုးခွက်ဆေးသော ရေများကို ရေအိုင် ရေမြောင်းထဲ၌ သွန်ပစ်ရာ၌ပင် `ရေအိုင်ထဲမှာရှိသော ပိုးမွှားတွေ စားကြပါစေ´ ဟူသော စိတ်စေတနာဖြင့် သွန်ပစ်လျှင် ယင်းသို့ အိုးခွက်ဆေးသော ရေကို စေတနာဖြင့် သွန်ပစ်ခြင်းဟူသော အကြောင်းကြောင့် ကုသိုလ်ကောင်းမှု ဖြစ်သည်ဟု ငါဘုရား ဟောတော်မူသည်။ လူပုဂ္ဂိုလ်အား ပေးလှူရာ၌ကား ဆိုဖွယ်မရှိပေ။ သို့သော်လည်း သီလရှိသောသူကို လှူသည့်အလှူသာ အကျိုးကြီးသည်ဟူ၍ ငါဆိုသည်။ သီလမရှိသောသူကို လှူသည့်အလှူကို အကျိုးကြီးသည်ဟူ၍ကား ငါမဆို။

သီလရှိသောသူ ဆိုသည်မှာလည်း ...

၁။ ကာမဂုဏ်ကို လိုလားခြင်း (ကာမစ္ဆန္ဒ)

၂။ သူတစ်ပါးကို ပျက်စီးစေလိုခြင်း (ဗျာပါဒ)

၃။ ထိုင်းမှိုင်းငိုက်မျဉ်းခြင်း (ထိန မိဒ္ဓ)

၄။ စိတ်ပျံ့လွင့်ခြင်း (ဥဒ္ဓစ္စ)

၅။ နောင်တ ရခြင်း (ကုက္ကုစ္စ)

ဤ ၅မျိုးကို ပယ်ပြီးသူ ရဟန္တာတို့၏ ဥစ္စာဖြစ်သော သီလမျိုး၊ သမာဓိမျိုး၊ ပညာမျိုး၊ ဝိမုတ္တိမျိုး၊ ဝိမုတ္တိဉာဏ်မျိုး နှင့် ပြည့်စုံသူကို ဆိုလိုသည်။´

တိကအင်္ဂုတ္တိုရ်၊ ဒုပဏ္ဏာသက ၁- ဗြဟ္မဏဝဂ်၊

၇ - ဝစ္ဆဂေါတ္တသုတ်။

## ဆုတောင်းရုံနှင့်မရ လုပ်မှ ရမည်

အခါတစ်ပါး၌ ဗုဒ္ဓမြတ်စွာသည် အနာထပိဏ်သေဌေးအား အလိုရှိအပ် နှစ်သက်မြတ်နိုး အပ်သော တရားငါးမျိုးကို အောက်ပါအတိုင်း ဟောတော်မူ၏။

`ဒါယကာ၊ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်သည်ဖြစ်၍ လောက၌ ရခဲသော တရားငါးမျိုး ရှိသည်။ အဘယ် ငါးမျိုးတို့နည်း ဆိုသော် ....

ဒါယကာ

၁။ အသက်ရှည်ခြင်းသည် အလိုရှိအပ်၏။ နှစ်သက်မြတ်နိုးအပ်၏။ လောက၌ ရခဲ၏။

၂။ အဆင်းလှခြင်းသည် အလိုရှိအပ်၏။ နှစ်သက်မြတ်နိုးအပ်၏။ လောက၌ ရခဲ၏။

၃။ ချမ်းသာခြင်းသည် အလိုရှိအပ်၏။ နှစ်သက်မြတ်နိုးအပ်၏။ လောက၌ ရခဲ၏။

၄။ အခြံအရံများခြင်းသည် အလိုရှိအပ်၏။ နှစ်သက်မြတ်နိုးအပ်၏။ လောက၌ ရခဲ၏။

၅။ နတ်ပြည်လောကသည် အလိုရှိအပ်၏။ နှစ်သက်မြတ်နိုးအပ်၏။ လောက၌ ရခဲ၏။

ဒါယကာ၊ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်သည်ဖြစ်၍ လောက၌ ရခဲသော တရားတို့သည် ဤငါးမျိုးပင်တည်း။

ဒါယကာ၊ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်သည်ဖြစ်၍ လောက၌ ရခဲသော ဤတရားငါးမျိုးတို့ကို နှုတ်ဖြင့် ဆုတောင်းခြင်းဟူသော အကြောင်းကြောင့် စိတ်ဖြင့် လိုချင်တောင့်တခြင်းဟူသော အကြောင်းကြောင့် ရသည်ဟု ငါဘုရား မဟောပေ။ ဒါယကာ၊ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်သည်ဖြစ်၍ ရခဲသော ဤတရားငါးမျိုးကို နှုတ်ဖြင့် ဆုတောင်းခြင်းဟူသော အကြောင်းကြောင့် စိတ်ဖြင့် လိုချင်တာင့်တခြင်းဟူသော အကြောင်းကြောင့် ရသည်ဆိုလျှင် လောက၌ အဘယ်သူသည် အဘယ်သို့ သောအရာမှ ယုတ်လျော့ တော့အံ့နည်း။

ဒါယကာ၊ အသက်ရှည်ချင်သည့် မြတ်သောတပည့်သာဝကသည် အသက်ရှည်ရန် နှုတ်ဖြင့် ဆုတောင်းနေခြင်းငှာ စိတ်ဖြင့် လိုချင်တောင့်တနေခြင်းငှာ မသင့်၊ အသက်ရှည်ချင်သည့် မြတ်သော တပည့်သာဝကသည် အသက်ရှည်ခြင်းဟူသော အကြောင်းကြောင့် အသက်ရှည်ခြင်းကို ဖြစ်စေတတ်သော လမ်းစဉ်ကို လိုက်နာပြုကျင့်အပ်၏။ ထိုသူ လိုက်နာ ပြုကျင့်သည့် အသက်ရှည်ခြင်းကို ဖြစ်စေတတ်သော လမ်းစဉ်သာလျှင် အသက်ရှည်ခြင်းကို ရရှိရန်ဖြစ်၏။ ထိုသူသည် နတ်သက်ရှည်ခြင်းကို လည်းကောင်း၊ လူသက်ရှည်ခြင်းကို လည်းကောင်း ရနိုင်၏။

ဒါယကာ၊ အဆင်းလှချင်သည့် မြတ်သောတပည့်သာဝကသည် အဆင်းလှရန် နှုတ်ဖြင့် ဆုတောင်း နေခြင်းငှာ စိတ်ဖြင့်လိုချင် တောင့်တနေခြင်းငှာ မသင့်၊ အဆင်းလှခြင်းကို ဖြစ်စေ တတ်သော လမ်းစဉ်ကို လိုက်နာပြုကျင့်အပ်၏။ ထိုသူ လိုက်နာပြုကျင့်သည့် အဆင်းလှခြင်းကို ဖြစ်စေတတ်သော လမ်းစဉ်သာလျှင် အဆင်းလှခြင်းကို ရရှိရန် ဖြစ်၏။ ထိုသူသည် နတ်အဆင်းလှခြင်းကိုသော် လည်းကောင်း၊ လူအဆင်းလှခြင်းကိုသော်လည်းကောင်း ရနိုင်၏။

ဒါယကာ၊ ချမ်းသာချင်သည့် မြတ်သောတပည့်သာဝကသည် ချမ်းသာရန်အတွက် နှုတ်ဖြင့် ဆုတောင်းနေခြင်းငှာ စိတ်ဖြင့် လိုချင်တောင့်တနေခြင်းငှာ မသင့်။ ချမ်းသာခြင်းကို ဖြစ်စေတတ်သော လမ်းစဉ်ကို လိုက်နာပြုကျင့်အပ်၏။ ထိုသူလိုက်နာပြုကျင့်သည့် ချမ်းသာခြင်းကို ဖြစ်စေတတ်သော လမ်းစဉ်သာလျှင် ချမ်းသာခြင်းကို ရရှိရန်ဖြစ်၏။ ထိုသူသည် နတ်ချမ်းသာကိုသော်လည်းကောင်း၊ လူချမ်းသာကိုသော် လည်းကောင်း ရနိုင်၏။

ဒါယကာ၊ အခြံအရံများချင်သည့် မြတ်သောတပည့်သာဝကသည် အခြံအရံများရန် နှုတ်ဖြင့် ဆုတောင်းနေခြင်းငှာ စိတ်ဖြင့် လိုချင်တောင့်တနေခြင်းငှာ မသင့်။ အခြံအရံများခြင်းကို

ဖြစ်စေတတ်သော လမ်းစဉ်ကို လိုက်နာပြုကျင့်အပ်၏။ ထိုသူလိုက်နာပြုကျင့်သည့် အခြံအရံများကို ဖြစ်စေတတ်သော လမ်းစဉ်သာလျှင် အခြံအရံများခြင်းကို ရရှိရန် ဖြစ်၏။ ထိုသူသည် နတ်ဖြစ်၍ အခြံအရံများခြင်းကိုသော်လည်းကောင်း၊ လူဖြစ်၍ အခြံအရံများခြင်းကိုသော်လည်းကောင်း ရနိုင်၏။

ဒါယကာ၊ နတ်ပြည်ကို ရောက်ချင်သည် မြတ်သော တပည့်သာဝကသည် နတ်ပြည်ရောက်ရန် နှုတ်ဖြင့် ဆုတောင်းနေခြင်းဟာ စိတ်ဖြင့် လိုချင်တောင့်တနေခြင်းဟာ မသင့်။ နတ်ပြည် ရောက်စေတတ်သည့် လမ်းစဉ်ကို လိုက်နာပြုကျင့်အပ်၏။ ထိုသူ လိုက်နာပြုကျင့်သည့် နတ်ပြည်ရောက်စေတတ်သော လမ်းစဉ်သာလျှင် နတ်ပြည်ရောက်ရန် ဖြစ်၏။ ထိုသူသည် နတ်ပြည်ရောက်နိုင်၏။

အသက်ရှည်ခြင်း၊ အဆင်းလှခြင်း၊ အခြံအရံများခြင်း၊ ထင်ရှားကျော်စောခြင်း၊ နတ်ပြည်သို့ ရောက်ခြင်း၊ မြတ်သောအမျိုးရှိခြင်း၊ တစ်ဆင့်ထက်တစ်ဆင့် မြင့်မြတ်ကြီးကျယ်ကာ မွေ့လျော်ရခြင်း တို့ကို တောင့်တသော အမျိုးကောင်းသားသည် ကုသိုလ်ကောင်းမှုတို့၌ မမေ့မလျော့ရာ။

ကုသိုလ်ကောင်းမှုတို့၌ မမေ့မလျော့ခြင်းကို ပညာရှိတို့ ချီးမွမ်းကုန်၏။ ကုသိုလ်ကောင်းမှု၌ မမေ့မလျော့သော ပညာရှိသည် မျက်မှောက် တမလွန်အကျိုးနှစ်ပါးကို ရနိုင်၏။ မျက်မှောက်ဘဝ၌ ဖြစ်သော အကျိုး၊ တမလွန်ဘဝ၌ ဖြစ်သောအကျိုး ဟူသော အကျိုးနှစ်ပါးကို ရခြင်းကြောင့် ပညာရှိကို လူတော်ဟု ဆိုရ၏။´

ပဉ္စအင်္ဂုတ္တိုရ်၊ မုဏ္ဍရာဇဝဂ်၊ ၃- ဣဋ္ဌသုတ်။

## ကံကိုချည်း လွှဲမချနှင့်

`ရဟန်းတို့၊ သတ္တဝါတစ်စုံတစ်ယောက် တွေ့ကြုံခံစားရသည့် ချမ်းသာဆင်းရဲနှင့် ချမ်းသာဆင်းရဲ မဟုတ်သော အရာဟူသမျှသည် ရှေးကပြုခဲ့ဖူးခဲ့သောအကြောင်း (အတိတ်ကံ) ကြောင့်သာလျှင် ဖြစ်သည်ဟု ပြောလေ့ ယူလေ့ရှိသော သမဏဗြာဟ္မဏ (ရဟန်းပုဏ္ဏား) အချို့တို့ ရှိကြသည်။ ထိုသူတို့ထံသို့ ငါဘုရား သွားရောက်ပြီးလျှင် -

"အရှင်တို့၊ သင်တို့သည် သတ္တဝါတစ်စုံတစ်ယောက် တွေ့ကြုံခံစားရသည့် ချမ်းသာဆင်းရဲနှင့် ချမ်းသာဆင်းရဲ မခေါ်ရသော အရာဟူသမျှသည် ရှေးကပြုဖူးခဲ့သောအကြောင်း (အတိတ်ကံ)ကြောင့်သာလျှင် ဖြစ်သည်ဟု ပြောလေ့ ယူလေ့ ရှိကြသည်မှာ မှန်ပါသလော " ဟု မေးခဲ့ဖူး၏။

ဤသို့ မေးသောအခါ ထိုသမဏ ဗြာဟ္မဏတို့က မှန်ပါသည်ဟု ဝန်ခံကြသည်။

ထိုသူတို့ကို ငါသည် ဤသို့ ဆို၏။

"အရှင်တို့၊ ယင်းသို့ဖြစ်လျှင် သူ့အသက်သတ်လေ့ရှိသော သူတို့သည်လည်း ရှေးကပြုခဲ့ဖူးခဲ့သော အကြောင်း (အတိတ်ကံ) ကြောင့်သာ သတ်ခြင်းဖြစ်သည်ဟု ဆိုရလိမ့်မည်။ သူ့ဥစ္စာကို ခိုးလေ့ရှိသောသူတို့သည်လည်း ရှေးကပြုခဲ့ဖူးသောအကြောင်း (အတိတ်ကံ)ကြောင့်သာ ခိုးခြင်းဖြစ်သည်ဟု ဆိုရလိမ့်မည်။ မမြတ်သော မေထုန်အကျင့်ကို ကျင့်သောသူတို့သည်လည်း ရှေးကပြုခဲ့ဖူးသော အကြောင်း (အတိတ်ကံ)ကြောင့်သာ ကျင့်ခြင်းဖြစ်သည်ဟု ဆိုရလိမ့်မည်။ လိမ်လည်ပြောလေ့ရှိသော သူတို့သည်လည်း ရှေးကပြုခဲ့ဖူးသောအကြောင်း (အတိတ်ကံ) ကြောင့်သာ ပြောခြင်းဖြစ်သည်ဟု ဆိုရလိမ့်မည်။ ကုန်းတိုက်သောသူ၊ ရုန့်ရင်းကြမ်းတမ်းသော စကားကို ပြောသောသူ အဆန်မဲ့စကားကို ပြောသောသူ၊ သူ့စည်းစိမ်ကို တပ်မက်သောသူ၊ သူတစ်ပါးကို ပျက်စီးစေလိုစိတ်ရှိသောသူ၊ မှားသောအယူရှိသော သူတို့သည်လည်း ရှေးကပြုခဲ့ဖူးသော အကြောင်း (အတိတ်ကံ) ကြောင့်သာ လိမ်ပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ကြမ်းတမ်းသော စကားကို ပြောခြင်း၊ အဆန်မဲ့သောစကားကို ပြောခြင်း၊ သူ့စည်းစိမ်ကို တပ်မက်ခြင်း၊ သူတစ်ပါးပျက်စီးစေလိုစိတ်ရှိခြင်း၊ အယူမှားခြင်း ဖြစ်သည်ဟု ဆိုရလိမ့်မည်။"

ရဟန်းတို့၊ ရှေးကပြုခဲ့ဖူးသော အကြောင်း (အတိတ်ကံ) ကိုသာ အခိုင်အမြဲစွဲလမ်း ယုံကြည်ထားသော သူတို့အား ဤအမှုကို ပြုလုပ်သင့်သည်၊ ဤအမှုကို မပြုလုပ်သင့်ဟူ၍ လုပ်သင့်သော အလုပ်ကိုလုပ်ရန်၊ မလုပ်သင့်သောအရာကို ရှောင်ရန်ဟူသော ပြုလုပ်ချင်စိတ်လည်း ရှိတော့မည်မဟုတ်၊ အားထုတ်မှု လုံ့လဝီရိယလည်း ရှိတော့မည် မဟုတ်ပေ။ ယင်းသို့ ပြုလုပ်သင့် မပြုလုပ်သင့်ဟူသည်ကို မှန်ကန်စွာ အခိုင်အမာမရရှိခဲ့လျှင် (သတိထားပြီး စောင့်စည်းမှု ရှိတော့မည် မဟုတ်ပေ။) သတိလွတ်ကင်းလျက် စောင့်စည်းမှုမရှိဘဲ နေသောသူအား သီးခြားအကြောင်းနှင့်တကွ လူကောင်းသူကောင်းဟုဆိုစရာ သမဏဝါဒသည် ရှိတော့မည် မဟုတ်ပေ။´

(လူကောင်း သူကောင်းလည်း ရှေးကပြုခဲ့သော အကြောင်းကြောင့် ဖြစ်သည်။ မကောင်းသော သူလည်း ရှေးက ပြုခဲ့သော အကြောင်းကြောင့် ဖြစ်သည်ဟု ဆိုဖို့သာ ရှိတော့သည် ဟူလို။)

တိကအင်္ဂုတ္တိုရ် ပါဠိတော်၊ ဒုတိယပဏ္ဏာသက၊

၂- မဟာဝဂ်၊ ၁- တိတ္ထာယတနသုတ်။

## အရမ်းမယုံနှင့်

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ကောသလတိုင်း၌ ဒေသစာရီလှည့်လည်တော်မူရင်း ကေသမုတ္တနိဂုံးသို့ ဆိုက်ရောက်တော်မူသည်။ ထိုနိဂုံးတွင် နေကြသည့် ကာလာမမင်းမျိုးတို့သည် မြတ်စွာဘုရား ဆိုက်ရောက်တော်မူလာကြောင်း သိကြသောအခါ မြတ်စွာဘုရားထံ ဆည်းကပ်လာကြပြီးလျှင် မြတ်စွာဘုရားအား ဤသို့ လျှောက်ထားကြလေ၏။

`မြတ်စွာဘုရား၊ အချို့သော သမဏပြဟ္မဏတို့သည် ကေသမုတ္တရွာသို့ ရောက်လာကြပါသည်။ ထိုသမဏပြဟ္မဏတို့သည် မိမိဝါဒကိုသာ ပြကြပါသည်။ မိမိဝါဒကိုသာ အမွှန်းတင်ကြပါသည်။ သူတစ်ပါး ဝါဒကိုကား ပုတ်ခတ်ကြပါသည်၊ ကဲ့ရဲ့ကြပါသည်၊ ရှုတ်ချ ကြပါသည်၊ ချေဖျက်ကြပါသည်။

အခြားသော သဏမပြဟ္မဏတို့သည်လည်း ကေသမုတ္တရွာသို့ ရောက်လာကြပါသည်။ ထိုသမဏပြဟ္မဏတို့ကလည်း မိမိဝါဒကိုသာ ပြကြပါသည်။ မိမိဝါဒကိုသာ အမွှန်းတင်ကြပါသည်။ သူတစ်ပါးဝါဒကိုကား ပုတ်ခတ်ကြပါသည်၊ ကဲ့ရဲ့ကြပါသည်၊ ရှုတ်ချ ကြပါသည်၊ ချေဖျက်ကြပါသည်။

ဤသို့ ကိုယ့်ဝါဒသာ အကောင်းပြော၍ သူတစ်ပါးဝါဒကို မကောင်းဟု ပြောကြသဖြင့် ထိုသမဏပြဟ္မဏတို့အပေါ်တွင် ဘယ်သူကမှန်၍ ဘယ်သူကမှားသနည်းဟု တပည့်တော်တို့ ယုံမှားသံသယဖြစ်ကြပါသည် ဘုရား။´

ယင်းသို့ လျှောက်ထားကြသောအခါ မြတ်စွာဘုရားက ဤသို့ မိန့်တော်မူ၏။

`ကာလာမမင်းတို့၊ သင်တို့ယုံမှားသံသယဖြစ်သည် ဆိုခြင်းမှာ ဖြစ်ထိုက်ပါပေသည်။ သင်တို့သည် ယုံမှားသံသယဖြစ်ထိုက်သည့်အရာ၌ ယုံမှားသံသယဖြစ်ကြခြင်းသာ ဖြစ်သည်။´

ထို့နောက် မြတ်စွာဘုရားက ဆက်လက်မိန့်ကြားတော်မူသည်။

`ကာလမမင်းတို့၊ သင်တို့သည် တစ်ဆင့်ကြားဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ ရှေးအစဉ်လာစကားဖြစ်ရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ ဤသို့ဖြစ်ဖူးသည်ဆိုရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ ပိဋကတ်ကျမ်းဂန်နှင့်ညီညွတ်သည်ဆိုရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ နည်းမှီ၍ ယူခြင်းမျိုးဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ အကြောင်းခြင်းရာကို ရှာကြံထောက်ပြ ညီညွတ်သည်ဆိုရုံမျှဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ မိမိတို့ကြံစည်နှစ်သက် လက်ခံထားသောအယူနှင့် ကိုက်ညီရုံဖြင့်အမှန်ဟု မယူကြနှင့်ဦး၊ လက်ခံထိုက်သော ပုဂ္ဂိုလ်၏စကားဖြစ်ရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ မိမိတို့ လေးစားအပ်သော ဆရာ၏စကားဖြစ်ရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး။

ကာလာမမင်းတို့၊ သင်တို့သည် မိမိကိုယ်တိုင် ဤတရားတို့သည် အကုသိုလ်တရားတို့တည်း၊ ဤတရားတို့သည် အပြစ်ရှိသော တရားတို့တည်း၊ ဤတရားတို့သည် ပညာရှိတို့

ကဲ့ရဲ့အပ်သည့် တရားတို့တည်း၊ ဤတရားတို့ ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်ကုန်၏ ဟု သိကြသောအခါ ထိုတရားတို့ကို ပယ်ကြကုန်လော့။

ကာလာမမင်းတို့၊ မည်သို့ ထင်ကြသနည်း။ တပ်မက်ခြင်းလောဘသည် လူ၏ အတွင်းသန္တာန်၌ ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော၊ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးမဲ့ဖို့ ဖြစ်ပါသည်ဘုရား။´

`ကာလာမမင်းတို့၊ တပ်မက်သော ပုဂ္ဂိုလ်သည် တပ်မက်ခြင်းလောဘက နှိပ်စက် လွှမ်းမိုးထားသော စိတ်ရှိသည်ဖြစ်၍ သူ့အသက်ကိုလည်း သတ်၏။ ပိုင်ရှင်မပေးသော သူ့ဥစ္စာကိုလည်း ခိုး၏။ သူ့သားမယားကိုလည်း လွန်ကျူး၏။ မဟုတ်မမှန် မုသားစကားကိုလည်း ပြော၏။ အခြားသူကိုလည်း သူ့အသက်သတ်ရန် သူ့ဥစ္စာခိုးရန်၊ သူ့သားမယား လွန်ကျူးရန်၊ မုသားပြောရန် ဆောက်တည်စေ၏။ ထိုသူ့အသက်သတ်ခြင်း စသည် သည် ထိုသူအား ကြာမြင့်စွာသော ကာလပတ်လုံး အကျိုးမဲ့ခြင်းငှာ ဆင်းရဲရောက်ခြင်းငှာ ဖြစ်သည် မဟုတ်လော။´

`သည်အတိုင်း မှန်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ မည်သို့ ထင်ကြသနည်း။ အမျက်ထွက်ခြင်း ဒေါသသည် လူ၏အတွင်းသန္တာန်၌ ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော။ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးမဲ့ဖို့ ဖြစ်ပါသည်ဘုရား။´

`ကာလာမမင်းတို့၊ အမျက်ဒေါသထွက်သော ပုဂ္ဂိုလ်သည် အမျက်ဒေါသက နှိပ်စက် လွှမ်းမိုးထားသော စိတ်ရှိသည် ဖြစ်၍ သူ့အသက်ကိုလည်း သတ်၏။ ပိုင်ရှင်မပေးသော သူ့ဥစ္စာကိုလည်း ခိုး၏။ သူ့သားမယားကိုလည်း လွန်ကျူး၏။ မဟုတ်မမှန် မုသားစကားကိုလည်း ပြော၏။ အခြားသူကိုလည်း သူ့အသက်သတ်ရန် သူ့ဥစ္စာခိုးရန်၊ သူ့သားမယား လွန်ကျူးရန်၊ မုသားပြောရန် ဆောက်တည်စေ၏။ ထိုသူ့အသက်သတ်ခြင်း စသည်သည် ထိုသူအား ကြာမြင့်စွာသော ကာလပတ်လုံး အကျိုးမဲ့ခြင်းငှာ ဆင်းရဲရောက်ခြင်းငှာ ဖြစ်သည် မဟုတ်လော။´

`သည်အတိုင်း မှန်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ မည်သို့ထင်ကြသနည်း။ တွေဝေသော မောဟသည် လူ၏အတွင်းသန္တာန်၌ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော။ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးမဲ့ဖို့ ဖြစ်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ တွေဝေသော ပုဂ္ဂိုလ်သည် တွေဝေမှု မောဟက နှိပ်စက် လွှမ်းမိုး ထားသော စိတ်ရှိသည်ဖြစ်၍ သူ့အသက်ကိုလည်း သတ်၏။ ပိုင်ရှင်မပေးသော သူ့ဥစ္စာကိုလည်း ခိုး၏။ သူ့သားမယားကိုလည်း လွန်ကျူး၏။ မဟုတ်မမှန်မုသားစကားကိုလည်း ပြော၏။

အခြားသူကိုလည်း သူ့အသက်သတ်ရန်၊ သူ့ဥစ္စာခိုးရန်၊ သူ့သားမယား လွန်ကျူးရန်၊ မုသားပြောရန် ဆောက်တည်စေ၏။ ထိုသူ့အသက် သတ်ခြင်းစသည်သည် ထိုသူအား ကြာမြင့်စွာသော ကာလပတ်လုံး အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်သည် မဟုတ်လော။´

`သည်အတိုင်း မှန်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ မည်သို့ ထင်ကြသနည်း။ ဤလောဘ ဒေါသ မောဟတရားတို့သည် ကုသိုလ်တရားတို့လော၊ အကုသိုလ် တရားတို့လော။ ´

`အကုသိုလ် တရားတွေဖြစ်ပါသည် ဘုရား´

`အပြစ်ရှိသော တရားတို့လော၊ အပြစ်မရှိသော တရားတို့လော။´

`အပြစ်ရှိသော တရားတွေဖြစ်ပါသည် ဘုရား ´

`ပညာရှိတို့ကဲ့ရဲ့အပ်သည့် တရားတို့လော၊ ပညာရှိတို့ ချီးမွမ်းအပ်သည့် တရားတို့လော။´

`ပညာရှိတို့ ကဲ့ရဲ့အပ်သည့် တရားတို့ ဖြစ်ပါသည် ဘုရား။´

`ဤတရားတို့ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်မည်လော။ အကျိုးရှိခြင်းငှာ ချမ်းသာခြင်းငှာ ဖြစ်မည်လော။ သင်တို့စိတ်တွင် မည်သို့ ထင်ကြသနည်း။´

`ဤတရားတို့ ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်သည်ဟု တပည့်တော်တို့စိတ်တွင် ထင်ကြပါသည် ဘုရား´

`ကာလာမမင်းတို့၊ သင်တို့သည် တစ်ဆင့်ကြားဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ မိမိတို့ လေးစားအပ်သောဆရာ၏ စကားဖြစ်ရုံဖြင့် အမှန်ဟု မယူကြနှင့်ဦး။ သင်တို့သည် မိမိကိုယ်တိုင် ဤတရားတို့သည် အကုသိုလ်တရားတို့တည်း၊ ဤတရားတို့သည် အပြစ်ရှိသော တရားတို့တည်း ဟု သိကြသောအခါ ထိုတရားတို့ကို ပယ်ကြကုန်လောဟု ငါဆိုခဲ့ခြင်းမှာ ဤအချက်ကိုစွဲ၍ ဆိုခဲ့ခြင်းဖြစ်သည်။

ကာလာမမင်းတို့၊ သင်တို့သည် တစ်ဆင့်ကြားဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ မိမိတို့ လေးစားအပ်သောဆရာ၏ စကားဖြစ်ရုံဖြင့်၊ အမှန်ဟု မယူကြနှင့်ဦး။

ကာလာမမင်းတို့၊ သင်တို့သည် မိမိကိုယ်တိုင် ဤတရားတို့သည် ကုသိုလ်တရားတို့တည်း၊ ဤတရားတို့သည် အပြစ်မရှိသောတရားတို့တည်း၊ ဤတရားတို့သည် ပညာရှိတို့ ချီးမွမ်းအပ်သော တရားတို့တည်း၊ ဤတရားတို့ ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးစီးပွားရှိခြင်းငှာ

ချမ်းသားခြင်းဟာ ဖြစ်ကုန်၏ဟု သိကြသောအခါ ထိုတရားတို့ကို ပြည့်စုံအောင်လုပ်၍ နေကြကုန်လော။

`ကာလာမမင်းတို့၊ မည်သို့ထင်ကြသနည်း။ မတပ်မက်မှု အလောဘသည် လူ၏ အတွင်း သန္တာန်၌ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော။ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးရှိဖို့ ဖြစ်ပါသည် ဘုရား´

`အမျက် မထွက်မှု အဒေါသသည် လူ၏အတွင်းသန္တာန်၌ ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော။ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးရှိဖို့ ဖြစ်ပါသည် ဘုရား ´

`မတွေဝေမှု အမောဟသည် လူ၏အတွင်းသန္တာန်၌ဖြစ်ခဲ့လျှင် အကျိုးရှိဖို့ ဖြစ်မည်လော။ အကျိုးမဲ့ဖို့ ဖြစ်မည်လော။´

`အကျိုးရှိဖို့ ဖြစ်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ မတပ်မက်သောပုဂ္ဂိုလ်သည် တပ်မက်မှု လောဘဖြင့် မနှိပ်စက် မလွှမ်းမိုးအပ်သော စိတ်ရှိသည်ဖြစ်၍ အမျက်မထွက်သော ပုဂ္ဂိုလ်သည် အမျက်ထွက်မှု ဒေါသဖြင့် မနှိပ်စက် မလွှမ်းမိုးအပ်သော စိတ်ရှိသည်ဖြစ်၍ မတွေဝေသော ပုဂ္ဂိုလ်သည် တွေဝေမှုမောဟဖြင့် မနှိပ်စက် မလွှမ်းမိုးအပ်သော စိတ်ရှိသည်ဖြစ်၍ သူ့အသက်ကိုလည်း မသတ်၊ သူ့ဥစ္စာကိုလည်း မခိုး၊ သူ့သားမယားကိုလည်း မလွန်ကျူး၊ မုသားစကားကိုလည်း မပြော၊ အခြားသူကိုလည်း သူ့အသက်သတ်ရန် သူ့ဥစ္စာခိုးရန် သူ့သားမယားလွန်ကျူးရန် မုသားပြောရန် မဆောက်တည်စေ။ ထို သူ့အသက် မသတ်ခြင်း စသည် သည် ထိုသူအား ကြာမြင့်စွာသော ကာလပတ်လုံး အကျိုးစီးပွား ရှိခြင်းဟာ ချမ်းသာခြင်းဟာ ဖြစ်သည် မဟုတ်လော။´

`သည်အတိုင်း မှန်ပါသည် ဘုရား´

`ကာလာမမင်းတို့၊ မည်သို့ ထင်ကြသနည်း။ ဤ အလောဘ၊ အဒေါသ၊ အမောဟ တရားတို့သည် ကုသိုလ်တရားတို့လော၊ အကုသိုလ်တရားတို့လော။´

`ကုသိုလ်တရားတွေ ဖြစ်ပါသည် ဘုရား´

`အပြစ်ရှိသော တရားတို့လော။ အပြစ်မရှိသော တရားတို့လော။´

`အပြစ်မရှိသော တရားတို့ ဖြစ်ပါသည် ဘုရား´

`ပညာရှိတို့ ကဲ့ရဲ့အပ်သော တရားတို့လော။ ပညာရှိတို့ ချီးမွမ်းအပ်သောတရားတို့လော´

`ပညာရှိတို့ ချီးမွမ်းအပ်သော တရားတို့ ဖြစ်ပါသည် ဘုရား´

`ဤတရားတို့ ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးရှိခြင်းငှာ ချမ်းသာခြင်းငှာ ဖြစ်မည်လော။ အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်မည်လော။ သင်တို့စိတ်တွင် မည်သို့ ထင်ကြသနည်း။´

`ဤတရားတို့ ပြည့်စုံလျှင် ဤတရားတို့ကို ဆောက်တည်လျှင် အကျိုးရှိခြင်းငှာ၊ ချမ်းသာခြင်းငှာ ဖြစ်သည်ဟု တပည့်တော်တို့စိတ်တွင် ထင်ကြပါသည် ဘုရား´

`ကာလာမမင်းတို့၊ သင်တို့သည် တစ်ဆင့်ကြားဖြင့် အမှန်ဟု မယူကြနှင့်ဦး၊ မိမိတို့ လေးစားအပ်သောဆရာ၏စကား ဖြစ်ရုံဖြင့် အမှန်ဟု မယူဆကြနှင့်ဦး၊ သင်တို့သည် မိမိကိုယ်တိုင် ဤတရားတို့သည် အကုသိုလ်တရားတို့တည်း၊ ဤတရားတို့သည် အပြစ်မရှိသော တရားတို့တည်း ဟု သိကြသောအခါ ထိုတရားတို့ကို ပြည့်စုံအောင် လုပ်၍ နေကြကုန်လော ဟု ငါဆိုခဲ့ခြင်းမှာ ဤအချက်ကိုစွဲ၍ ဆိုခဲ့ခြင်း ဖြစ်သည်။´

တိကအင်္ဂုတ္တိုရ်၊ ၂- မဟာဝဂ်၊

၅- ကေသမုတ္တိသုတ်။

## စုံစမ်းပြီးမှ ဆည်းကပ်ကြ

အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံးတော်မူစဉ် ရဟန်းတို့အား -

`ရဟန်းတို့၊ သူတစ်ပါးစိတ်ကို မသိသော စူးစမ်းလိုသော ရဟန်းသည် မြတ်စွာဘုရား ဟုတ်သလော မဟုတ်သလောဟု သိရန်အတွက် စူးစမ်းမှုကို ပြုအပ်၏။´

ဟု မိန့်တော်မူလေ၏။ ထိုအခါ ရဟန်းတို့က ထိုစကား၏အဓိပ္ပာယ်ကို အကျယ်ဖွင့်၍ ဟောတော်မူရန် တောင်းပန်ကြသဖြင့် ဤသို့ ဆက်၍ဟောတော်မူသည်။

`ရဟန်းတို့၊ သူတစ်ပါး၏စိတ်ကို မသိသော စူးစမ်းလိုသောရဟန်းသည် မြတ်စွာဘုရား၌ အပြစ်ရှိသော ကာယကံမှု၊ ဝစီကံမှု ရှိသလော မရှိသလောဟု စူးစမ်းရမည်။ ယင်းသို့စူးစမ်း၍ မြတ်စွာဘုရားအား အပြစ်ရှိသော ကာယကံမှု၊ ဝစီကံမှု မရှိဟု သိလျှင် တစ်ဆင့်တက်၍ မြတ်စွာဘုရား၌ ရံခါအပြစ်ရှိ၊ ရံခါ အပြစ်မရှိအားဖြင့် နှစ်မျိုးရောနေသည့် ကာယကံမှု ဝစီကံမှု ရှိသလော မရှိသလော စူးစမ်းရမည်။ ယင်းသို့ စူးစမ်း၍ မြတ်စွာဘုရား၌ ရံခါအပြစ်ရှိ ရံခါအပြစ်မရှိအားဖြင့် နှစ်မျိုးရောနေသည့် ကာယကံမှု၊ ဝစီကံမှုမရှိဟု သိလျှင် တစ်ဖန်တစ်ဆင့်တက်၍ မြတ်စွာဘုရား၌ ဖြူစင်သန့်ရှင်းသော ကာယကံမှု၊ ဝစီကံမှု ရှိသလော မရှိသလောဟု စူးစမ်းရမည်။

ယင်းသို့ စူးစမ်း၍ မြတ်စွာဘုရား၌ ဖြူစင်သန့်ရှင်းသော ကာယကံမှု၊ ဝစီကံမှုတို့ရှိသည် ဟု သိလျှင် တစ်ဖန်တစ်ဆင့်တက်၍ ဤအရှင်သည် (မြတ်စွာဘုရားသည်) ဤအပြစ်မရှိသော အဖြစ်နှင့် ကြာမြင့်စွာ ကာလက ပြည့်စုံနေသလော၊ သို့မဟုတ် မနေ့တစ်နေ့ကမှ ပြည့်စုံနေသလော ဟု စူးစမ်းရမည်။ ယင်းသို့ စူးစမ်း၍ ဤအပြစ်ကင်းသော အကျင့်နှင့် မနေ့တစ်နေ့ကမှ ပြည့်စုံနေသည် မဟုတ် ကြာမြင့်စွာသော ကာလကပြည့်စုံနေသည်ဟု သိလျှင် တစ်ဖန်တစ်ဆင့်တက်၍ ဤအရှင်သည် (မြတ်စွာဘုရားသည်) ထင်ရှားကျော်စော အခြံအရံများခြင်းသို့ ရောက်ပြီလော၊ ယင်းသို့ ထင်ရှားကျော်စောအခြံအရံများခြင်းသို့ ရောက်ခြင်းကြောင့် မြတ်စွာဘုရား၌ အချို့သော အပြစ်များ ထင်ရှားဖြစ်ပေါ်လာ သလောဟု စူးစမ်းရမည်။

ရဟန်းတို့၊ ထင်ရှားကျော်စော အခြံအရံများခြင်းသို့ မရောက်သေးသောရဟန်း၌ အချို့သော (အလွန်မာနထောင်လွှားခြင်းစသော) အပြစ်တို့သည် မဖြစ်ပေါ်တတ်ချေ။ ထင်ရှားကျော်စော အခြံအရံများခြင်းသို့ ရောက်လာသောအခါ၌ကား အလွန်မာန ထောင်လွှားခြင်းစသော အပြစ်များ ဖြစ်ပေါ်လာတတ်သည်။

ယင်းသို့ စူးစမ်း၍ မြတ်စွာဘုရားသည် ထင်ရှားကျော်စောအခြံအရံများခြင်းသို့ ရောက်ပြီ။ ယင်းသို့ ထင်ရှားကျော်စော အခြံအရံများခြင်းသို့ ရောက်ခြင်းကြောင့် မြတ်စွာဘုရား၌ ထိုအပြစ်မျိုးတို့သည် ထင်ရှားမရှိကြကုန်ဟု သိလျှင် တစ်ဖန်တစ်ဆင့်တက်၍ မြတ်စွာဘုရားသည် ဘေးရန်ကြောင့် ရှောင်ကြဉ်သူမဟုတ်ဘဲ၊ ဘေးရန်မရှိဘဲလျက် ရှောင်ကြဉ်သူဟုတ်ပါ၏လော၊ ကာမဂုဏ်ကို မမှီဝဲခြင်းမှာလည်း ရာဂကုန်ခန်းနေသောကြောင့် ရာဂကင်းသည့်အတွက် မမှီဝဲခြင်း ဟုတ်ပါ၏လောဟု စူးစမ်းရမည်။ ယင်းသို့ စူးစမ်းလျှင် မြတ်စွာဘုရားသည် ဘေးရန်ကြောင့် ရှောင်ကြဉ်သူမဟုတ်၊ ဘေးရန်မရှိဘဲလျက် ရှောင်ကြဉ်သူဖြစ်သည်။ ကာမဂုဏ်ကို မမှီဝဲခြင်းမှာလည်း ရာဂကုန်ခန်းနေသောကြောင့်၊ ရာဂကင်းသည့်အတွက် မမှီဝဲခြင်းဖြစ်သည်ဟု သိမည်။ အကယ်၍ တစ်စုံတစ်ယောက်က မေးလျှင်လည်း မြတ်စွာဘုရားသည် ဘေးရန်ကြောင့် ရှောင်ကြဉ်သူမဟုတ်၊ ဘေးရန်မရှိဘဲလျက် ရှောင်ကြဉ်သူဖြစ်ကြောင်း ကာမဂုဏ်ကို မမှီဝဲခြင်းမှာလည်း ရာဂ ကုန်ခန်းနေသောကြောင့် ရာဂကင်းသည့်အတွက် မမှီဝဲခြင်းဖြစ်ကြောင်း မြတ်စွာဘုရားထံမှ ကြားနာမှတ်သား ရပါသည်ဟု ဖြေကြားနိုင်သည်။

ထိုစူးစမ်းသောရဟန်းသည် မြတ်စွာဘုရား၌ အပြစ်ရှိသော ကာယကံမှု၊ ဝစီကံမှု ရှိသလော မရှိသလော၊ ရံခါအပြစ်ရှိ ရံခါအပြစ်မရှိ နှစ်မျိုးရောနေသည့် ကာယကံမှု၊ ဝစီကံမှုရှိသလော၊ မရှိသလော၊ ဖြူစင်သန့်ရှင်းသော ကာယကံမှု၊ ဝစီကံမှုရှိသလော မရှိသလောဟု မြတ်စွာဘုရားကိုပင် မေးနိုင်၏။ မြတ်စွာဘုရားသည် ဖြေကြားတော်မူလိုပါက မြတ်စွာဘုရား၌ အပြစ်ရှိသော ကာယကံမှု၊ ဝစီကံမှုတို့ မရှိချေ။ အပြစ်မရှိ နှစ်မျိုးရောနေသည့် ကာယကံမှု၊ ဝစီကံမှုတို့လည်း မရှိချေ။ မြတ်စွာဘုရား၌ ဖြူစင်သန့်ရှင်းသော ကာယကံမှု၊ ဝစီကမှုတို့ ရှိကြသည်ဟူ၍ ဖြေတော်မူလိမ့်မည်။

ရဟန်းတို့၊ ဤသို့ ပြောဆိုလေ့ရှိသောဆရာ (မြတ်စွာဘုရား) ကို တပည့်ဖြစ်သူသည် တရားနာရန်အလို့ငှာ ဆည်းကပ်ထိုက်၏။´

မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော်၊
၅- စူဠယမကဝဂ်၊ ၇- ဝီမံသကသုတ်။

## ရဟန္တာကို သိဖို့မလွယ်

အခါတစ်ပါး၌ ကောသလမင်းကြီးသည် မြတ်စွာဘုရားထံ ဆည်းကပ်နေစဉ် နိဂဏ္ဌ တက္ကဒွန်းများ မနီးမဝေး၌ ဖြတ်သွားကြသည်ကို မြင်သဖြင့် ထို တက္ကဒွန်းတို့ကို ညွှန်ပြလျက်

`ထိုပုဂ္ဂိုလ်များသည် ရဟန္တာပုဂ္ဂိုလ်တို့တွင် ပါဝင်ကြပါသည်´ ဟု လျှောက်ထားလေသည်။

ထိုအခါ မြတ်စွာဘုရားက -

`မင်းကြီး၊ အိမ်ရာ တည်ထောင်လူတို့ဘောင်၌နေလျက် ကာမဂုဏ်စည်းစိမ်ကို ခံစားလေ့ရှိသော သင်သည် ဤပုဂ္ဂိုလ်တို့သည် ရဟန္တာဖြစ်ကုန်၏။ ဤပုဂ္ဂိုလ်တို့သည် အရဟတ္တမဂ်သို့ ရောက်ကုန်၏။ ဟူသောအကြောင်းကို သိနိုင်ခဲသည် သာတည်း။

၁။ ဒကာတော် မင်းမြတ်၊ အကျင့်သီလ (ရှိ မရှိ) ကို ပေါင်းသင်းဆက်ဆံခြင်းအားဖြင့် သိရသည်။ ယင်းကိုလည်း ကြာမြင့်စွာ ပေါင်းသင်းမှ သိရသည်။ ယင်းကိုလည်း ကြာမြင့်စွာ ပေါင်းသင်းမှ သိသည်။ ခဏခေတ္တပေါင်းသင်းရုံဖြင့် မသိနိုင်။ သတိထားမှသိသည်။ သတိမထားလျှင် မသိနိုင်။ ပညာရှိမှ သိသည်။ ပညာမရှိလျှင် မသိနိုင်။

၂။ ဒကာတော် မင်းမြတ်၊ သန့်ရှင်းမှု (ရှိ မရှိ) ကို စကားပြောကြည့်မှ သိရသည်။ ယင်းကိုလည်း ကြာကြာပြောကြည့်မှ သိသည်။ ခဏခေတ္တမျှ ပြောယုံဖြင့် မသိနိုင်။ သတိထားမှ သိသည်။ သတိမထားလျှင် မသိနိုင်။ ပညာရှိမှ သိသည်။ ပညာမရှိလျှင် မသိနိုင်။

၃။ ဒကာတော် မင်းမြတ်၊ စွမ်းရည် (ရှိ မရှိ) ကို ဘေးရန်ကြုံမှ သိရသည်။ ယင်းကိုလည်း ကြာကြာဘေးရန်တွေ့မှ သိသည်။ တခဏမျှ ဘေးတွေ့ရုံဖြင့် မသိနိုင်၊ သတိထားမှ သိသည်၊ သတိမထားလျှင် မသိနိုင်၊ ပညာရှိမှ သိသည်၊ ပညာမရှိလျှင် မသိနိုင်။

၄။ ဒကာတော် မင်းမြတ်၊ ပညာ (ရှိ မရှိ)ကို ဆွေးနွေးမှ သိရသည်။ ယင်းကိုလည်း ကြာကြာဆွေးနွေးမှ သိရသည်။ ယင်းကိုလည်း ကြာကြာဆွေးနွေးမှ သိသည်။ ခဏဆွေးနွေးရုံဖြင့် မသိနိုင်၊ သတိထားမှ သိသည်၊ သတိမထားလျှင် မသိနိုင်၊ ပညာရှိမှ သိသည်၊ ပညာမရှိလျှင် မသိနိုင်။

အပေါ်ယံအသွင်အပြင်အားဖြင့် လူကို (လူကောင်း ဟုတ် မဟုတ်) သိလွယ်သည် မဟုတ်ချေ။ ခဏမျှတွေ့ရုံဖြင့် အကျွမ်းမဝင်ရာ။ ကိုယ်နှုတ်နှလုံး မစောင့်စည်းသောသူတို့သည် စောင့်စည်းသည့် သွင်ပြင်ဟန်ပန် လုပ်ကာ လောက၌ ကျက်စားနေကြလေသည်။

ရွှံ့ကိုလုပ်ထားသော နားတောင်းကဲ့သို့လည်းကောင်း၊ ရွှေရည်ပွတ်ထားသော နစ်ပြားတန် ကြေးနားတောင်းကဲ့သို့ လည်းကောင်း၊ အတွင်းက မစင်ကြယ်ဘဲ ဂုဏ်ပကာသန အခြံအရံ အဆောင်အယောင်တို့ဖြင့် ဖုံးအုပ်ကာ အပေါ်ယံအပြင်ပန်းအားဖြင့် တင့်တယ်ကြသောသူတို့သည် လောက၌ ကျက်စားနေကြလေသည်။

သဂါထာဝဂ္ဂသံယုတ် ပါဠိတော်၊

၃- ကောသလသံယုတ်၊ သတ္တဇဋိလသုတ်။

## တရားကို ဖောင်ကို သဘောထား

`ရဟန်းတို့၊ တရားသည်သံသရာတစ်ဖက်ကမ်းသို့ ကူးမြောက်ရန်အတွက်သာဖြစ်သည်။ သိမ်းပိုက်ထားရန်မဟုတ်။ ဤအကြောင်းနှင့်စပ်၍ သင်တို့အား ဖောင် ဥပမာကို ဟောကြာတော်မူမည်။ ကောင်းစွာ နာကြားကြကုန်။

ရဟန်းတို့၊ ဥပမာအားဖြင့် ခရီးရှည်သွားသော ယောကျ်ားတစ်ယောက်သည် အလွန်ကျယ်သော မြစ်ကြီးတွေ့ရာ၏။ ထိုမြစ်၏ ဤမှာဘက်ကမ်းသည် ဘေးရန်ထူပြော၍ ဟိုမှာဘက်ကမ်းကား ဘေးရန်မရှိ အေးချမ်း၏။ ကူးဖို့ရန် လှေလည်းမရှိ၊ တံတားလည်းမရှိ။ ထိုခရီးသွား ယောကျ်ားသည် ဤသို့ စဉ်းစား၏။ " ဤမြစ်ကြီးသည် အလွန်ကျယ်၏။ ဤဘက်ကမ်းမှ ဘေးရန်ထူပြော၍ ဟိုမှာဘက်ကမ်းကား ဘေးရန်မရှိ အေးချမ်း၏။ ကူးဖို့ရန်လှေလည်းမရှိ၊ တံတားလည်းမရှိ၊ ငါသည် မြက်သစ်ခက် ကောက်ရိုးတို့ကို ရှာဖွေစုရုံး၍ ဖောင်ဖွဲ့ပြီးလျှင် ထိုဖောင်ကိုစီးလျက် လက်ခြေတို့ဖြင့် ယက်ကာ တစ်ဖက်ကမ်းသို့ ကူးရမူ ကောင်းလေမည်။" ဤသို့စဉ်းစားကာ ထိုခရီးသွားယောကျ်ားသည် မြက်သစ်ခက်ကောက်ရိုးတို့ကို ရှာဖွေစုရုံး၍ ဖောင်ဖွဲ့ပြီးလျှင် ထိုဖောင်ကိုစီးလျက် လက်ခြေတို့ဖြင့် ယက်ကာ တစ်ဖက်ကမ်းသို့ ကူးရာ၏။

ယင်းသို့ကူး၍ တစ်ဖက်ကမ်းသို့ရောက်သောအခါ -

"ဤဖောင်သည် ငါ့အား လွန်စွာကျေးဇူးပြုပေသည်။ ဤဖောင်ကိုအမှီပြု၍ ဤဘက်ကမ်းသို့ ချမ်းသာစွာရောက်ရသည်။ ဤဖောင်ကို ခေါင်းပေါ်ရွက်သွားရလျှင်၊ သို့မဟုတ် ပခုံးဖြင့် ထမ်းသွားရလျှင် ကောင်းမည်။ " ဟုဆိုကာ ထမ်းရွက်ယူဆောင်သွားရာ၏။ ရဟန်းတို့၊ မည်သို့

သဘောရသနည်း။ ခရီးသွားယောက်ျားသည် ထိုဖောင်၌ ပြုလုပ်သင့်သည်ကို ပြုလုပ်သည်ဟု ဆိုနိုင်ပါမည်လော။´

ရဟန်းများက မဆိုပါဘုရားဟု လျှောက်ကြသည်။

`မည်သို့ ပြုလျှင် ထိုခရီးသွားယောက်ျားသည် ဖောင်၌ပြုလုပ်သင့်သည်ကို ပြုလုပ်သည်ဟု ဆိုရမည်နည်း။ ဤဖောင်သည် ငါ့အား အလွန်ကျေးဇူးပြုပေသည်။ ဤဖောင်ကို အမှီပြု၍ ဤဘက်ကမ်းသို့ ချမ်းသာစွာရောက်ရသည်။ ဤဖောင်ကို ကုန်းပေါ်သို့ ဆွဲတင်ထားရလျှင်၊ သို့မဟုတ် ရေထဲ၌ မျှောထားရလျှင် ကောင်းမည် ဟုဆိုကာ ကုန်းပေါ်၌ တင်ထားခဲ့ရာ၏။ သို့မဟုတ် ရေထဲ၌ မျှောထားခဲ့ရာ၏။ ယင်းသို့ပြုလျှင် ထိုဖောင်၌ ပြုလုပ်သင့်သည်ကို ပြုလုပ်ခြင်းပင် ဖြစ်သည်။

ရဟန်းတို့၊ ဤဥပမာအတိုင်းပင် ငါသည် တရားကို ဖောင်ပမာ သံသရာတစ်ဖက်ကမ်းသို့ ကူးမြောက်ရန်အတွက် ဟောတော်မူခြင်း ဖြစ်သည်။ ထမ်းရွက်ယူဆောင် (သိမ်းပိုက်)ရန်အတွက် မဟုတ်ချေ။ ရဟန်းတို့၊ သင်တို့သည် တရားကို ဖောင်ပမာထား၍ ဟောကြားသည်ကို သိကြသဖြင့် သမထ ဝိပဿနာတရား၌ တပ်သော ဆန္ဒရာဂကိုပယ်စွန့်ကြရမည်။ ကာမဂုဏ်တို့၌ တပ်သော ဆန္ဒရာဂကိုကား အထူးပြောဖွယ်မရှိ။ အဘယ်မှာ မပယ်စွန့်ဘဲ နေကြရမည်နည်း။´

မဇ္ဈိမနိကာယ်၊ မူလပဏ္ဏာသပါဠိတော်၊

၁- ဩပမ္မဝဂ်၊ ၂- အလဂဒ္ဒူပမသုတ်။

## ဝါဒဖြန့်ဖို့ မဟုတ်

`ရဟန်းတို့၊ ဤမြတ်သောအကျင့်ကို လူအများအံ့ဩကြစေရန်အတွက် လူတွေကို ဖြားယောင်းရန်အတွက် လာဘ်ပူဇော်ပသကာ ပေါများ၍ ကျော်ကြားရန်အတွက် ထိုထိုအကြောင်းဖြင့် ဝါဒဖြန့်ရန်အတွက် ငါ့ကို " ဤပုဂ္ဂိုလ်သည် ဤအဆင့်ရောက်သတဲ့ " ဟု လူအများသိစေရန်အတွက် ကျင့်သုံးရသည် မဟုတ်။

ရဟန်းတို့၊ စင်စစ်သော်ကား ဤမြတ်သောအကျင့်ကို စောင့်စည်းရန်အတွက် မကောင်းသော တရားကိုပယ်စွန့်ရန်အတွက်၊ တပ်မက်မှုကင်းရန်အတွက်၊ ရာဂစသော တရားတို့ကို ချုပ်ငြိမ်းရန်အတွက် ကျင့်သုံးရ၏။´

မြတ်စွာဘုရားသည် စောင့်စည်းခြင်းငှာ၊ ကိလေသာကိုပယ်ခြင်းငှာ တစ်ဆင့်ကြား မဟုတ်သော၊ နိဗ္ဗာန်အတွင်းသို့ ရောက်စေတတ်သော အကျင့်မြတ်ကို ဟောတော်မူ၏။ ထိုအကျင့်မြတ် ဟူသောလမ်းကို မြတ်သော ဂုဏ်ကို ရှာမှီးကြသော ပုဂ္ဂိုလ်တို့သည် အစဉ်လျှောက်၍ လိုက်ကြကုန်၏။

စတုက္ကအင်္ဂုတ္တိုရ် ပါဠိတော်၊
၃- ဥရုဝေလဝဂ်၊ ၅- ပြဟ္မစရိယသုတ်။

## ဆင်ဆင်ခြင်ခြင်လုပ်

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်း၌ သီတင်းသုံးတော်မူနေစဉ် ရာဟုလာအား တရားဟောတော်မူရင်း ဤသို့ မေးတော်မူသည်။

`ရာဟုလာ ကြေးမုံမှန်သည် အဘယ်အကျိုးရှိသနည်း။´

ထိုအခါ ရာဟုလာက ကြေးမုံမှန်သည် မျက်နှာ၌ရှိသော အပြစ်ကို ကြည့်ရှုရန်အတွက် အကျိုးရှိပါသည်ဘုရား - ဟုဖြေသည်။

ထိုအခါ မြတ်စွာဘုရားက ဤသို့ ဆက်၍ မိန့်တော်မူသည်။

`ရာဟုလာ၊ ဤနည်းအတူပင် ဆင်ခြင်၍ ဆင်ခြင်၍ ကိုယ်ဖြင့် အလုပ်ကို လုပ်ရမည်။ ဆင်ခြင်၍ ဆင်ခြင်၍ နှုတ်ဖြင့် ပြောဆိုရမည်။ ဆင်ခြင်၍ ဆင်ခြင်၍ စိတ်ဖြင့် ကြံစည်ရမည်။

ရာဟုလာ၊ သင်သည် ကိုယ်ဖြင့် အလုပ်တစ်ခုခုကိုပြုလုပ်မည်ရှိသောအခါ ငါပြုလုပ်မည့် အမှုသည် မိမိဆင်းရဲခြင်းငှာ ဖြစ်မည်လော။ သူတစ်ပါး ဆင်းရဲခြင်းငှာ ဖြစ်မည်လော။ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာ ဖြစ်မည်လော။ ဤအမှုသည် အကုသိုလ်လော၊ ဆင်းရဲဒုက္ခကို ပွားစေတတ်သလော၊ ဆင်းရဲခြင်းအကျိုး ရှိသလော - ဟု ဆင်ခြင်ရမည်။

ယင်းသို့ ဆင်ခြင်၍ - ငါပြုလုပ်မည့် အမှုသည် မိမိဆင်းရဲခြင်းငှာ ဖြစ်၏။ သူတစ်ပါး ဆင်းရဲခြင်းငှာ ဖြစ်၏။ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာ ဖြစ်၏။ ဤအမှုသည် အကုသိုလ်တည်း၊ ဆင်းရဲဒုက္ခကို ပွားစေတတ်၏။ ဆင်းရဲခြင်းအကျိုးရှိ၏ - ဟုသိလျှင် ထိုအမှုကို စင်စစ်မပြုအပ်ချေ။ ငါပြုလုပ်မည့်အမှုသည် မိမိဆင်းရဲခြင်းငှာလည်း မဖြစ်၊ သူတစ်ပါး ဆင်းရဲခြင်းငှာလည်း မဖြစ်၊ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာလည်း မဖြစ်၊ ဤအမှုသည် ကုသိုလ်တည်း၊ ချမ်းသာသုခကို ပွားစေတတ်၏။ ချမ်းသာခြင်းအကျိုး ရှိ၏ - ဟုသိလျှင် ထိုအမှုကို စင်စစ်ပြုလုပ်အပ်၏။

ပြုလုပ်ပြီးသောအခါ၌လည်း ငါလုပ်ခဲ့သည့်အမှုသည် မိမိဆင်းရဲခြင်းငှာ ဖြစ်သလော၊ သူတစ်ပါးဆင်းရဲခြင်းငှာဖြစ်သလော၊ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာ ဖြစ်သလော၊ ဤအမှုသည် အကုသိုလ်လော၊ ဆင်းရဲဒုက္ခကို ပွားစေတတ်သလော၊ ဆင်းရဲခြင်း အကျိုးရှိသလော

ဟု ဆင်ခြင်ရမည်။ ယင်းသို့ ဆင်ခြင်၍ - ငါပြုလုပ်ခဲ့သည့်အမှုသည် မိမိဆင်းရဲခြင်းငှာ ဖြစ်၏။ သူတစ်ပါးဆင်းရဲခြင်းငှာ ဖြစ်၏။ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာ ဖြစ်၏။ ဤအမှုသည် အကုသိုလ်တည်း၊ ဆင်းရဲဒုက္ခကို ပွားစေတတ်၏။ ဆင်းရဲခြင်းအကျိုး ရှိ၏ ဟု မြတ်စွာဘုရားထံ၌ ဖြစ်စေ၊ ပညာရှိ သီတင်းသုံးဖော်ပုဂ္ဂိုလ်တို့ထံ၌ ဖြစ်စေ အတိအလင်း ဖွင့်ဟပြောကြား၍ နောင် မပြုမိအောင် ရှောင်ကြဉ် စောင့်စည်းရမည်။

အကယ်၍ ငါပြုလုပ်ခဲ့သည့်အမှုသည် မိမိဆင်းရဲခြင်းငှာလည်းမဖြစ်၊ သူတစ်ပါး ဆင်းရဲခြင်းငှာလည်း မဖြစ်၊ မိမိ သူတစ်ပါး နှစ်ဦးစလုံး ဆင်းရဲခြင်းငှာလည်းမဖြစ်၊ ဤ အမှုသည် ကုသိုလ်တည်း၊ ချမ်းသာသုခကိုပွားစေတတ်၏။ ချမ်းသာခြင်းအကျိုး ရှိ၏ ဟုသိလျှင် ဝမ်းမြောက် ကျေနပ်စွာဖြင့် နေ့ရောညပါ ကုသိုလ်တရားကို ကြိုးစား၍ နေလေလော့။

မဇ္ဈိမနိကာယ်၊ မဇ္ဈိမပဏ္ဏာသ ပါဠိတော်၊

၂- ဘိက္ခုဝဂ်၊ ၁- အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်။

## ကြီးပွားချင်လျှင် စိတ်ကိုသတိထား

ရဟန်းတို့၊ မိမိအကျိုးစီးပွားကို အလိုရှိသောသူသည် အချက်လေးခု၌ မမေ့မလျော့ သတိထားပြီး စိတ်ကို စောင့်ရှောက်ရမည်။ အဘယ်အချက်လေးခုနည်း ဆိုသော် ....

၁။ တပ်မက်စရာအာရုံတို့၌ ငါ့စိတ်သည် မတပ်မက်စေလင့်ဟု မမေ့မလျော့ သတိထားပြီး စိတ်ကို စောင့်ရှောက်ရမည်။

၂။ အမျက်ထွက်စရာကိစ္စတို့၌ ငါ့စိတ်သည် အမျက်မထွက်စေလင့်ဟု မမေ့မလျော့ သတိထားပြီးစိတ်ကို စောင့်ရှောက်ရမည်။

၃။ တွေဝေစရာကိစ္စတို့၌ ငါ့စိတ်သည် မတွေဝေစေလင့်ဟု မမေ့မလျော့ သတိထားပြီး စိတ်ကို စောင့်ရှောက်ရမည်။

၄။ မာန်ယစ်စရာအကြောင်းတို့၌ ငါ့စိတ်သည် မာန်မယစ်စေလင့်ဟု မမေ့မလျော့ သတိထားပြီးစိတ်ကို စောင့်ရှောက်ရမည်။

ရဟန်းတို့၊ မိမိအကျိုးစီးပွားကို အလိုရှိသောသူသည် ဤအချက်လေးခု၌ မမေ့မလျော့ သတိထားပြီး စိတ်ကို စောင့်ရှောက်ရမည်။

စတုက္ကအင်္ဂုတ္တိုရ်၊ တတိယပဏ္ဏာသက၊

၃- ကေသိဝဂ်၊ ၇- အာရက္ခသုတ်။

## စိတ်ကို ဂရုစိုက်

အခါတစ်ပါး၌ အနာထပိဏ်သေဌေးသည် မြတ်စွာဘုရားထံသို့ ဆည်းကပ်လာ၏။ ထိုအခါ မြတ်စွာဘုရားက အနာထပိဏ် သေဌေးအား ဤသို့ မိန့်ကြားတော်မူသည်။

`ဒါယကာ၊ စိတ်ကို မစောင့်ရှောက်လျှင် ကာယကံမှု ဝစီကံမှု မနောကံမှု (ကိုယ်မှု နှုတ်မှု စိတ်မှု)များလည်း မစောင့်ရှောက်သည်ပင် မည်၏။ မစောင့်ရှောက်ဘဲထားသော ကာယကံ ဝစီကံ မနောကံမှုများသည် မကောင်းသောတရားဖြင့် စိုစွတ်၏။ မကောင်းသောတရားဖြင့် စိုစွတ်သော ကာယကံမှု ဝစီကံမှု မနောကံများသည် ပုပ်ဆွေး၏။ ယင်းပုပ်ဆွေးနေသော ကာယကံမှု၊ ပုပ်ဆွေးနေသော ဝစီကံမှု၊ ပုပ်ဆွေးနေသော မနောကံမှု ရှိနေသောသူ၏ သေခြင်းသည် ကောင်းသောသေခြင်း မဖြစ်နိုင်။

ဒါယကာ၊ စိတ်ကို (လွှတ်မထားဘဲ) စောင့်ရှောက်လျှင် ကာယကံမှု၊ ဝစီကံမှု၊ မနောကံမှုများလည်း စောင့်ရှောက်အပ်သည်ပင် မည်၏။ စောင့်ရှောက်အပ်သော ကာယကံမှု ဝစီကံမှု မနောကံမှုသည် မကောင်းသောတရားဖြင့် မစိုစွတ်သော ကာယကံမှု ဝစီကံမှု မနောကံမှုသည် စင်ကြယ်လတ်ဆတ်၏။ ယင်းသို့ စင်ကြယ်လတ်ဆတ်သော ကာယကံမှု ဝစီကံမှု မနောကံမှု ရှိနေသောသူ၏ သေခြင်းသည် ကောင်းသောသေခြင်း ဖြစ်၏။

တိကအင်္ဂုတ္တိုရ်ပါဠိတော်၊ တတိယပဏ္ဏာသက၊

၁- သမ္ဗောဓဝဂ်၊ ၇- အရက္ခိတသုတ်။

## မုန်ကြည့်သောအခါ

ရဟန်းတို့၊ သင်တို့သည် သူတစ်ပါး၏ စိတ်ဖြစ်ပုံ၌ လိမ္မာကျွမ်းကျင်မှု မရှိလျှင် မိမိ၏စိတ်ဖြစ်ပုံ၌ လိမ္မာကျွမ်းကျင်သူဖြစ်အောင် လုပ်မည်ဟု ကျင့်အောင်အပ်၏။

ရဟန်းတို့၊ အဘယ်သို့လျှင် မိမိ၏စိတ်ဖြစ်ပုံ၌ လိမ္မာကျွမ်းကျင်သူ ဖြစ်နိုင်သနည်းဆိုသော် ဥပမာအားဖြင့် အသက်အရွယ်နုပျို၍ အလှပြုပြင် ဆင်ယင်တတ်သည့်အလေ့ရှိသော မိန်းမပျို ယောကျ်ားပျိုတို့သည် ကြေးမုံမှန်၌ဖြစ်စေ၊ ကြည်လင်သော ရေခွက်၌ ဖြစ်စေ မိမိ၏မျက်နှာရိပ်ကို ကြည့်သည် ရှိသော် အကယ်၍ မှန်ထဲရေခွက်ထဲတွင် မိမိမျက်နှာကို မြူအညစ်အကြေးကို ဖြစ်စေ၊ မှဲ့ခြောက် ဝက်ခြံစသည်ကိုဖြစ်စေ မြင်လျှင် ထိုမြူအညစ်အကြေး သို့မဟုတ် မှဲ့ခြောက် ဝက်ခြံစသည်တို့ ဖယ်ရှားသုတ်သင်ရန် လုံ့လထုတ်၍ ပြုလုပ်ရသည်။ အကယ်၍ မှန်ထဲရေခွက်ထဲတွင်

မိမိမျက်နှာ၌ မြူအညစ်အကြေးကို ဖြစ်စေ၊ မှဲ့ခြောက် ဝက်ခြံစသည်ကိုဖြစ်စေ မမြင်လျှင် `ငါတစ်ကိုယ်လုံး စင်ကြယ်နေပါတကား´ ဟု ဝမ်းမြောက်မှု စိတ်အလိုပြည့်မှု ဖြစ်ရ၏။

ရဟန်းတို့၊ ဤဥပမာအတိုင်းပင် ငါသည် သူများစည်းစိမ်ကို ရလိုသမှုရှေ့ရှုကြံသည့် အဘိဇ္ဈာဖြစ်နေခြင်းက များသလော၊ သူများစည်းစိမ်ကို ရလိုသမှု ရှေ့ရှုကြံသည့် အဘိဇ္ဈာမဖြစ်ဘဲ နေခြင်းက များသလော။ ငါသည် စိတ်ဓာတ်ပျက်စီးနေခြင်းက များသလော၊ စိတ်ဓာတ် မပျက်စီးနေခြင်းက များသလော။ ငါသည် ထိုင်းမှိုင်းမှု ထိန မိဒ္ဓ နှိပ်စက်နေခြင်းက များသလော၊ ထိုင်းမှိုင်းမှု ထိနမိဒ္ဓ ကင်းနေခြင်းက များသလော။ ငါသည် စိတ်ပျံ့လွင့်နေခြင်းက များသလော၊ စိတ်မပျံ့လွင့်ဘဲ နေခြင်းက များသလော။ ငါသည် ယုံမှားသံသယဖြစ်နေခြင်းက များသလော၊ ယုံမှားသံသယကို လွန်မြောက်နေခြင်းက များသလော။ ငါသည် အမျက်ဒေါသထွက်နေခြင်းက များသလော၊ အမျက်ဒေါသမထွက်ဘဲ နေခြင်းက များသလော။ ငါသည် စိတ်ညစ်နေခြင်းက များသလော၊ စိတ်မညစ်ဘဲနေခြင်းက များသလော။ ငါသည် ကိုယ်ပင်ပန်းနွမ်းနယ်နေခြင်းက များသလော၊ ကိုယ်မပင်ပန်းဘဲ လန်းဆန်းနေခြင်းက များသလော။ ငါသည် ပျင်းရိနေခြင်းက များသလော၊ ထက်သန်သော လုံ့လရှိခြင်းက များသလော။ ငါသည် စိတ်မတည်ငြိမ်ဖြစ်နေခြင်းက များသလော၊ စိတ်တည်ငြိမ်နေခြင်းက များသလော - ဟု ဆင်ခြင်ခြင်းသည် ကုသိုလ်တရားတို့၌ လွန်စွာ ကျေးဇူးများလှ၏။

ရဟန်းတို့၊ ထိုသို့ဆင်ခြင်သော သူသည် အကယ်၍ သူများစည်းစိမ်ကို ရလိုသမှု ရှေ့ရှုကြံသည့် အဘိဇ္ဈာ ဖြစ်နေခြင်းက များသည်၊ စိတ်ဓာတ်ပျက်စီးနေခြင်းက များသည်၊ ထိုင်းမှိုင်းမှု ထိနမိဒ္ဓ နှိပ်စက်နေခြင်းက များသည်။ စိတ်ပျံ့လွင့်နေခြင်းက များသည်။ ယုံမှားသံသယဖြစ်နေခြင်းက များသည်။ အမျက်ဒေါသထွက်နေခြင်းက များသည်။ စိတ်ညစ်နေခြင်းက များသည်။ ကိုယ်ပင်ပန်း နွမ်းနယ်နေခြင်းက များသည်။ ပျင်းရိနေခြင်း ကများသည်။ စိတ်မတည်မငြိမ်ဖြစ်နေခြင်းက များသည်ဟု သိလျှင် ထိုယုတ်ညံ့သည့် မကောင်းသောတရားတို့ကိုသာလျှင် ပယ်ရန် လွန်ကဲသော ဆန္ဒကိုလည်းကောင်း၊ လုံ့လကိုလည်းကောင်း၊ အားထုတ်မှုကို လည်းကောင်း၊ အပူတပြင်း အားထုတ်မှုကို လည်းကောင်း၊ မဆုတ်နစ်မှုကိုလည်းကောင်း သတိကိုလည်းကောင်း၊ အဆင်ခြင်ဉာဏ် သမ္ပဇဉ်ကိုလည်းကောင်း ပြုသင့်၏။

ရဟန်းတို့၊ ဥပမာသော်ကား ကိုယ်တွင် ဝတ်ထားသော အဝတ်ကို မီးလောင်သည်ရှိသော် ဦးခေါင်းကို မီးလောင်သည်ရှိသော် မီးငြိမ်းစေရန် လွန်ကဲသောဆန္ဒကို လည်းကောင်း၊ လုံ့လကို လည်းကောင်း၊ အားထုတ်မှုကိုလည်းကောင်း၊ မဆုတ်မနစ်မှုကို လည်းကောင်း၊ သတိကို လည်းကောင်း၊ အဆင်ခြင်ဉာဏ် သမ္ပဇဉ်ကိုလည်းကောင်း ပြုရာသကဲ့သို့ ဤအတူပင် ထိုယုတ်ညံ့သည့် မကောင်းသော တရားတို့ကိုသာလျှင် ပယ်ရန်လွန်ကဲသော ဆန္ဒ၊ လုံ့လအားထုတ်မှု၊ အပူတပြင်း အားထုတ်မှု၊ မဆုတ်မနစ်မှု၊ သတိ၊ အဆင်ခြင်ဉာဏ် သမ္ပဇဉ်ကို ပြုသင့်၏။

ရပဟန်းတို့၊ ထိုသို့ ဆင်ခြင်သောသူသည် အကယ်၍ သူများစည်းစိမ်ကို ရလိုသမှု ရှေ့ရှုကြံသည့် အဘိဇ္ဈာမဖြစ်ဘဲနေခြင်းက များသည်။ ထိုင်းမှိုင်းမှု ထိနမိဒ္ဓ ကင်းနေခြင်းက များသည်။ စိတ်မပျံ့လွင့်ဘဲ နေခြင်းက များသည်။ ယုံမှား သံသယကိုလွန်မြောက်နေခြင်းက များသည်။ အမျက်ဒေါသ မထွက်ဘဲနေခြင်းက များသည်။ ကိုယ်မပင်ပန်းဘဲ လန်းဆန်းနေခြင်းက များသည်။ ထက်သန်သောလုံ့လ ရှိနေခြင်းက များသည်။ စိတ်တည်ငြိမ်နေခြင်းက များသည်ဟု သိလျှင် ထိုကောင်းသော တရားတို့၌ သာလျှင် တည်၍ ထိုမှတစ်ဆင့်တက်ကာ ကြာမြင့်စွာက စွဲကပ်ပါလာသည့် ယုတ်ညံ့သောတရားတို့ ကုန်ခြင်းငှာ ကြိုးစား အားထုတ်ရာ၏။

ဒသအင်္ဂုတ္တိုရ်၊ ဒုပဏ္ဏာသက၊ သစိတ္တသုတ်။

## ကိုယ့်ကိုယ်ကို စောင့်မှ လုံခြုံသည်

ဒကာတော်မင်းကြီး၊ ကိုယ်ဖြင့် မကောင်းမှုကို ပြုသောသူ (မကောင်းသော အလုပ်ကို လုပ်သောသူ)၊ နှုတ်ဖြင့် မကောင်းမှုကို ပြုသောသူ (မကောင်းသောစကားကို ပြောသောသူ)၊ စိတ်ဖြင့် မကောင်းမှုကို ပြုသောသူ (မကောင်းသောအကြံကို ကြံသောသူ) တို့သည် မိမိကိုယ် မိမိ စောင့်ရှောက်သူများ မဟုတ်ချေ။ ထိုသူတို့သည် ဆင်တပ် မြင်းတပ် ရထားတပ် ခြေလျင်တပ်ကြီးများဖြင့် စောင့်ရှောက်ထားစေကာမူ မိမိကိုယ်ကို မိမိစောင့်ရှောက်သူများ မဟုတ်ကြချေ။ အကြောင်းသော်ကား ထိုဆင်တပ် မြင်းတပ် ရထားတပ် ခြေလျင်တပ် အစောင့်အရှောက်များသည် အပြင်ပ အစောင့်အရှောက်သာဖြစ်၍ အတွင်းအစောင့်ရှောက်များ မဟုတ်သောကြောင့်တည်း။ သို့ဖြစ်၍ ထိုတပ်များဖြင့် စောင့်ရှောက်ထားသော်လည်း စောင့်ရှောက်အပ်သူဟု မဆိုနိုင်ချေ။

ဒကာတော်မင်းကြီး၊ ကိုယ်ဖြင့် ကောင်းသောအမှုကို ပြုသောသူ၊ နှုတ်ဖြင့် ကောင်းသော အမှုကိုပြုသောသူ၊ စိတ်ဖြင့် ကောင်းသော အမှုကိုပြုသောသူတို့သည် မိမိကိုယ်ကိုမိမိ စောင့်ရှောက်သူများ ဖြစ်သည်။ ထိုသူတို့သည် ဆင်တပ် မြင်းတပ် ရထားတပ် ခြေလျင်တပ်ဖြင့် မစောင့်ရှောက်အပ်သော်လည်း မိမိကိုယ် မိမိ စောင့်ရှောက်သူများသာ ဖြစ်သည်။ အကြောင်းသော်ကား ဤသို့ ကံသုံးပါး လုံခြုံအောင် စောင့်ရှောက်မှုသည် အတွင်း စောင့်အရှောက်ဖြစ်၍ အပြင်ပ အစောင့်အရှောက် မဟုတ်သောကြောင့်တည်း။ သို့ဖြစ်၍ ထိုသူတို့သည် မိမိကိုယ်ကို မိမိ စောင့်ရှောက်သူများသာ ဖြစ်သည်။

ကိုယ်ကို စောင့်စည်းခြင်းသည် ကောင်း၏။ နှုတ်ကိုစောင့်စည်းခြင်းသည် ကောင်း၏။ စိတ်ကိုစောင့်စည်းခြင်းသည် ကောင်း၏။ ကိုယ်နှုတ်နလုံး သုံးပါးလုံးကို စောင့်စည်းခြင်းသည် ကောင်း၏။ ကိုယ်နှုတ်နလုံး သုံးပါးလုံးကို စောင့်စည်းသည့် အရှက်ရှိသောသူကို မိမိကိုယ်ကို မိမိ စောင့်ရှောက်သူဟု ဆိုအပ်၏။

သဂါထာဝဂ္ဂ သံယုတ်ပါဠိတော်၊

၃- ကောသလ သံယုတ်၊ ၅- အတ္တရက္ခိတသုတ်။

## အတင်းအကျပ် တိုက်တွန်းခြင်းမဟုတ်

ရဟန်းတို့၊ အကုသိုလ်ကို ပယ်ကြကုန်လော့။ ရဟန်းတို့၊ သင်တို့သည် အကုသိုလ်ကို ပယ်ခြင်းငှာ စွမ်းနိုင်ကြကုန်၏။ ရဟန်းတို့၊ သင်တို့သည် အကယ်၍ အကုသိုလ်ကို ပယ်ခြင်းငှာ မစွမ်းနိုင်ကြလျှင် အကုသိုလ်ကို ပယ်ကြကုန်လော့- ဟု ငါမဟောရာ၊ သင်တို့သည် အကုသိုလ်ကို ပယ်ခြင်းငှာ စွမ်းနိုင်ကြသောကြောင့်သာ ငါ ဟောတော်မူခြင်း ဖြစ်သည်။

ရဟန်းတို့၊ အကုသိုလ်ကို ပယ်ခြင်းသည် အကျိုးမဲ့ခြင်းငှာဖြစ်လျှင်၊ အကုသိုလ်ကို ပယ်ကြကုန်လော့- ဟု ငါမဟောရာ၊ အကျိုးများ၍ ချမ်းသာခြင်းငှာ ဖြစ်သောကြောင့်သာ ငါ ဟောတော်မူခြင်းဖြစ်သည်။

ရဟန်းတို့၊ ကုသိုလ်ကို ပွားများကြကုန်လော့။ ရဟန်းတို့၊ သင်တို့သည် ကုသိုလ်ကို ပွားခြင်းငှာ စွမ်းနိုင်ကြကုန်၏။ ရဟန်းတို့၊ သင်တို့သည် အကယ်၍ ကုသိုလ်ကို ပွားများခြင်းငှာ မစွမ်းနိုင်ကြလျှင် ကုသိုလ်ကိုပွားများကြကုန်လော့- ဟု ငါမဟောရာ။ သင်တို့သည် ကုသိုလ်ကို ပွားများခြင်းငှာ စွမ်းနိုင်ကြသောကြောင့်သာ ငါဟောတော်မူခြင်းဖြစ်သည်။

ရဟန်းတို့၊ ကုသိုလ်ကိုပွားများခြင်းသည် အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းမှာဖြစ်လျှင် အကုသိုလ်ကို ပွားများကြကုန်လော့- ဟု ငါမဟောရာ။ အကျိုးများ၍ ချမ်းသာခြင်းငှာ ဖြစ်သောကြောင့်သာ ငါဟောတော်မူခြင်းဖြစ်သည်။

ဒုက အင်္ဂုတ္တိုရ်၊ ၂- အဓိကရဏသုတ်။

## မီးလောင်သည့်အထဲ မပါအောင်

အခါတစ်ပါး၌ အသက်တစ်ရာ့နှစ်ဆယ် ရှိသော ပုဏ္ဏားကြီးနှစ်ယောက်သည် မြတ်စွာဘုရားထံ ဆည်းကပ်လျက် ဤသို့ လျှောက်ထားကြလေ၏။

`အရှင်ဂေါတမ၊ အကျွန်ုပ်တို့သည် အသက်တစ်ရာ့နှစ်ဆယ်ရှိကြပါပြီ။ အိုမင်းကြီးရင့်၍ အရွယ်အဆင့်ဆင့် လွန်မြောက်ကာ နောက်ဆုံးအရွယ်သို့ရောက်နေကြပါပြီ။ အကျွန်ုပ်တို့သည် အပါယ်ဘေးမှ လွတ်မြောက်ကြောင်း ကောင်းမှုကုသိုလ်တရားကို မပြုလုပ်ကြရသေးပါ။

အရှင်ဝေါတမသည် အကျွန်ုပ်တို့အား သံသရာရေးအတွက် စီးပွားချမ်းသာဖြစ်နိုင်ရာသော အဆုံးအမ သြဝါဒစကားကို မိန့်ကြားတော်မူပါဘုရား။´

ယင်းသို့ လျှောက်ကြားသောအခါ မြတ်စွာဘုရားက -

`ပုဏ္ဏားတို့၊ သင်တို့သည် အသက်တစ်ရာ့နှစ်ဆယ် ရှိကြပြီ၊ အိုမင်းကြီးရင့်၍ အရွယ်အဆင့်ဆင့်လွန်မြောက်ကာ နောက်ဆုံးအရွယ်သို့ ရောက်နေကြပြီ။ သင်တို့သည် အပါယ်ဘေးမှ လွတ်မြောက်ကြောင်း ကောင်းမှုကုသိုလ် တရားကိုမူကား မပြုလုပ်ကြရသေး။

ပုဏ္ဏားတို့၊ ဤသတ္တလောကသည် အိုခြင်း ဟူသော ဇရာမီး၊ နာခြင်းဟူသော ဗျာဓိမီး၊ သေခြင်းဟူသော မရဏမီးဖြင့် တပြောင်ပြောင် တောက်လောင် နေ၏။ ပုဏ္ဏားတို့၊ ဇရာမီး၊ ဗျာဓိမီး၊ မရဏမီးတို့ဖြင့် တောက်လောင်နေသော ဤသတ္တလောက၌ အကြင်သူသည် ကိုယ်နှုတ်နှလုံးကို စောင့်စည်း၏။ ယင်းသို့ စောင့်စည်းခြင်းသည် ထိုသူအတွက် သေလွန်သောအခါ ခိုကိုးရာပုန်းအောင်းမှီခိုရာ ကိုးကွယ်အားထားရာဖြစ်၏- ဟု မိန့်တော်မူ၏။

အိမ်ကို မီးလောင်သောအခါ ထုတ်ဆောင်သယ်ယူထားသော အိုးခွက်စသည်တို့သည် လည်းကောင်း၊ အိမ်၌ မီးမလောင်ဘဲ ကျန်သော ပစ္စည်းတို့သည်လည်းကောင်း ထိုအိမ်ရှင်၏ အကျိုးဌာ ဖြစ်သကဲ့သို့ ဤအတူပင် သတ္တလောကသည် ဇရာမီး ဗျာဓိမီး မရဏမီးဖြင့် တောက်လောင်နေ၏။ ဒါနပြုခြင်းဖြင့် ထုတ်ဆောင် သယ်ယူထားကြကုန်လော့၊ ပေးလှူခြင်းသည် မီးထဲ မပါအောင် ထုတ်ဆောင်သယ်ယူခြင်း ပင်ဖြစ်၏။

ကိုယ်နှုတ်နှလုံး စောင့်စည်းခြင်းနှင့် အသက်ရှိစဉ်အခါ ကုသိုလ်ကောင်းမှုကို ပြုခြင်းသည် သေလွန်သွားသောအခါ ထိုသူအတွက် ချမ်းသာဖို့ရန် ဖြစ်၏။

တိကအင်္ဂုတ္တိုရ်၊ ဒုတိယ ပဏ္ဏာသက၊

၁- ဗြဟ္မဏဝဂ်၊ ၂- ဒုတိယသုတ်။

## ရုတ်တရက်(ကားတိုက်)သေမှာ ကြောက်သလား

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ကပိလဝတ်ပြည် နိဂြောဓာရုံကျောင်း၌ သီတင်းသုံးနေတော်မူစဉ် မဟာနာမ် သာကီဝင်မင်းသည် မြတ်စွာဘုရားထံ ဆည်းကပ်၍ ဤသို့ လျှောက်လေသည်။

`မြတ်စွာဘုရား၊ ကပိလဝတ်ပြည်သည် အလွန်စည်ကားလျက် လူဦးရေများပြားလှပါသည်။ လူမျိုးစုံရောပြွမ်းနေပါသည်။ လမ်းတို လမ်းကျဉ်းတို့လည်း ပေါများလှပါသည်။ တပည့်တော်သည်

မြတ်စွာဘုရားကို ဆည်းကပ်ရာမှ ဖြစ်စေ၊ သံဃာတော်များကို ဆည်းကပ်ရာမှဖြစ်စေ ကပိလဝတ်မြို့ ထဲသို့ ပြန်သွားသောအခါ ဟိုဟိုသည်သည် လှည့်လည်ပြေးသွားနေသော ဆင်နှင့်လည်း ရင်ဆိုင် တွေ့ဆုံရပါသည်။ ဟိုဟိုသည်သည် လှည့်လည်ပြေးသွားနေသော မြင်းနှင့်လည်း ရင်ဆိုင် တွေ့ဆုံရပါသည်။ ဟိုဟိုသည်သည် လှည့်လည်ပြေးသွားနေသော ရထားနှင့်လည်း ရင်ဆိုင် တွေ့ဆုံရပါသည်။ ထိုအချိန်၌ တပည့်တော်သည် ဘုရား တရား သံဃာ ရတနာသုံးပါးကို သတိမရနိုင်ပါ။ ထိုအခါမျိုး၌ ယခုနေများ (ဆင်တိုက်၍ မြင်းတိုက်၍ ရထားတိုက်၍) သေသွားလျှင် ဘယ်ဘဝကို လားမည်နည်း။ ဘယ်ဘဝကို ရောက်မည်နည်းဟု တပည့်တော် တွေးတောမိပါသည် ဘုရား´

ဤသို့ မဟာနာမ်က လျှောက်သောအခါ မြတ်စွာဘုရားက -

`မဟာနာမ်၊ မကြောက်လင့်။ မဟာနာမ် မကြောက်လင့်။ (ထိုအခါမျိုး၌ သေလျှင်လည်း) သင့်အား မယုတ်ညံ့သော သေခြင်းဖြစ်လတ္တံ့၊ မယုတ်ညံ့သော ကွယ်လွန်ခြင်း ဖြစ်လတ္တံ့။ မဟာနာမ်၊ အကြင်သူအား နှစ်ပေါင်းများစွာ သဒ္ဓါဖြင့် ထုံအပ်သော စိတ်၊ သီလဖြင့် ထုံအပ်သော စိတ်၊ အကြားအမြင် သုတဖြင့် ထုံအပ်သော စိတ်၊ စွန့်ကြဲခြင်း စာဂဖြင့် ထုံအပ်သော စိတ်၊ ပညာဖြင့် ထုံအပ်သော စိတ် ရှိ၏။ ထိုပုဂ္ဂိုလ်၏ ကိုယ်သည်ကား ရုပ်သက်သက်ဖြစ်၏။ မာဟာဘုတ်လေးပါး စုဝေးရာဖြစ်၏။ အမိအဖတို့ သုတ်သွေးကြောင့် ဖြစ်ပွားလာ၏။ ထမင်းမုန့်တို့ဖြင့် ကြီးပွားရ၏။ မမြဲခြင်း ပွတ်သပ်ဆုပ်နယ်ပေးရခြင်း ပြိုကွဲပျက်စီးခြင်း သဘောရှိ၏။ (ထိုအခါမျိုး၌ သေလျှင်) ရုပ်ကောင်ကြီးကို ဤအရပ်၌ပင် ကျီးလင်းတတို့သော်လည်း ထိုးဆိတ်စားသောက်ကြသည်။ ခွေး မြေခွေးတို့သော်လည်း စားကြသည်။ ပိုးလောက်တို့သော်လည်း စားကြသည်။ ထိုသူ၏ နှစ်ပေါင်းများစွာ သဒ္ဓါဖြင့် ထုံအပ်သော သီလဖြင့် ထုံအပ်သော အကြားအမြင်သုတဖြင့် ထုံအပ်သော စွန့်ကြဲခြင်းစာဂဖြင့် ထုံအပ်သော ပညာဖြင့် ထုံအပ်သော စိတ်သည်ကား အထက်သို့သာ တက်လေ့ရှိ၏။ ထူးခြားစွာ သွားလေ့ရှိ၏။

ဥပမာအားဖြင့် ထောပတ်အိုးကိုဖြစ်စေ၊ ဆီအိုးကိုဖြစ်စေ ရေနက်သော ရေအိုင်ထဲသို့ နှစ်၍ ခွဲလိုက်လျှင် အိုးခြမ်းကွဲများက အောက်သို့ကျသွားလျက် ထောပတ်တို့ ဆီတို့က အပေါ်သို့ တက်လာသကဲ့သို့ ရုပ်ကောင်ကြီးကို ဤအရပ်၌ပင် ကျီး လင်းတ တို့သော်လည်း ထိုးဆိတ် စားသောက်ကြသည်။ ခွေး မြေခွေးတို့သော်လည်း စားကြသည်။ ပိုးလောက်တို့သော်လည်း စားကြသည်။ ထိုသူ၏ နှစ်ပေါင်းများစွာ သဒ္ဓါဖြင့်ထုံအပ်သော စွန့်ကြဲခြင်း စာဂဖြင့် ထုံအပ်သော ပညာဖြင့် ထုံအပ်သော စိတ်သည်ကား အထက်သို့ တက်လေ့ရှိ၏။ ထူးခြားစွာ သွားလေ့ရှိ၏။

မဟာနာမ်၊ သင်သည် နှစ်ပေါင်းများစွာ သဒ္ဓါဖြင့် ထုံအပ်သော သီလဖြင့် ထုံအပ်သော အကြားအမြင်သုတဖြင့် ထုံအပ်သော စွန့်ကြဲခြင်း စာဂဖြင့် ထုံအပ်သော ပညာဖြင့် ထုံအပ်သော

စိတ်ရှိသူ ဖြစ်သည်။ မဟာနာမ်၊ မကြောက်လင့်။ မဟာနာမ်၊ မကြောက်လင့်။ သင့်အား မယုတ်ညံ့သောသေခြင်းဖြစ် လတ္တံ့။ မယုတ်ညံ့သော ကွယ်လွန်ခြင်း ဖြစ်လတ္တံ့ ။

သံယုတ္တနိကာယ်၊ မဟာဝဂ္ဂသံယုတ်၊
၁- သောတာပတ္တိသံယုတ်၊ ၃- သရဏာနိဝဂ်၊ ၁။

## ဘယ်သူ့ကို အချစ်ဆုံးလဲ

အခါတစ်ပါး၌ ပသေနဒီ ကောသလမင်းကြီးသည် သူ၏မိဖုရား မလ္လိကာဒေဝီအား - မလ္လိကာ၊ သင့်မှာ မိမိကိုယ်ထက် ပို၍ချစ်သောသူ တစ်စုံတစ်ယောက်ရှိသလောဟု မေးလေ၏။

မလ္လိကာဒေဝီက - အရှင်မင်းကြီး၊ အကျွန်ုပ်မှာ မိမိထက်ပို၍ ချစ်သောသူ တစ်စုံတစ်ယောက်မျှမရှိပါ ဟု ဖြေပြီးလျှင် အရှင်မင်းကြီးမှာ မိမိကိုယ်ထက်ပို၍ ချစ်သောသူ တစ်စုံတစ်ယောက် ရှိပါသလောဟု ပြန်မေးလေသည်။

ကောသလမင်းကြီးက - ငါ့မှာလည်း မိမိကိုယ်ထက် ပို၍ချစ်သောသူ တစ်စုံတစ်ယောက်မျှ မရှိပါ ဟု ပြန်ဖြေလေသည်။

ကောသလမင်းကြီးသည် မိမိတို့စကားကို မှန်ကန်သည်ဟု တစ်ထစ်ချ မမှတ်သေးဘဲ မြတ်စွာဘုရားအား လျှောက်ထားဦးမည်။ မြတ်စွာဘုရား မိန့်တော်မူသည့်အတိုင်းသာ မှတ်ယူတော့မည်ဟု ကြံကာ မလ္လိကာဒေဝီနှင့်အတူ ဇေတဝန်ကျောင်းတော် မြတ်စွာဘုရားထံသို့ သွားပြီးလျှင် မိမိတို့နှစ်ယောက် အချင်းချင်း မေးကြ ဖြေကြပုံကို လျှောက်ထားလေသည်။

ထိုအကြောင်းကို သိတော်မူသဖြင့် မြတ်စွာဘုရားသည် ဤသို့ ဥဒါန်းကျူးတော်မူလေ၏။

အရပ်ဆယ်မျက်နှာနှံ့အောင် စိတ်ဖြင့် ရှာဖွေစုံစမ်းသော်လည်း မိမိကိုယ်ထက်ပို၍ ချစ်သောသူကို မည်သည့်အရပ်တွင်မျှ မရနိုင်။ သတ္တဝါဟူသမျှသည် အသီးသီးကိုယ်စီကိုယ်င အခြားသူများထက် မိမိကိုယ်ကို ချစ်ကြသူတွေချည်း ဖြစ်သည်။ သို့ဖြစ်၍ မိမိ၏စီးပွားချမ်းသာကို အလိုရှိသောသူသည် သူတစ်ပါးကို မညှဉ်းဆဲရာ။

ဥဒါန်းပါဠိတော်၊ ၅- ကောဏသောဏဝဂ်၊ ၁။

## ဘဝတိုင်း ဆုံချင်လျှင်

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဘဂ္ဂတိုင်း သုသုမာရဂိရိမြို့တွင် သီတင်းသုံးတော်မူစဉ် နကုလပိတာ နကုလမာတာ အမည်ရှိသော သူကြွယ်ဇနီးမောင်နှံအိမ်သို့ ကြွတော်မူသည်။ သူကြွယ်ဇနီးမောင်နှံတို့သည် မြတ်စွာဘုရားအား ရှိသေစွာရှိခိုးလျက် သင့်လျော်သောနေရာ၌ ထိုင်နေကြပြီးလျှင် နကုလပိတာ သူကြွယ်က ဤသို့ လျှောက်ထားလေသည်။

`မြတ်စွာဘုရား၊ တပည့်တော်သည် အသက်ငယ်ရွယ်စဉ်ကပင် ငယ်ရွယ်သူဖြစ်သော နကုလမာတာနှင့် လက်ထပ်ခဲ့ပါသည်။ လက်ထပ်သည့်အချိန်ကစ၍ ယနေ့အထိ နကုလမာတာကို ကျော်လွန်ပြီး အခြားသောမိန်းမများထံ စိတ်ရောက်ဖူးသည်ဟု တစ်ခါမျှ မရှိခဲ့ဘူးပါ။ ကိုယ်ထိ လက်ရောက် ကျူးလွန်မှုကား ဆိုဖွယ်ရာပင်မရှိတော့ပါ။ မြတ်စွာဘုရား တပည့်တော်တို့သည် ယခုဘဝ၌လည်း အချင်းချင်းတွေ့ဆုံပြီး နောင်ဘဝသံသရာ၌လည်း အချင်းချင်းတွေ့ဆုံရန် အလိုရှိကြပါသည် ဘုရား´

နကုလမာတာကလည်း လျှောက်ပြန်သည်။

`မြတ်စွာဘုရား၊ တပည့်တော်မသည် ငယ်ငယ်ကပင် နကုလပိတာနှင့်လက်ထပ်ခဲ့ပါသည်။ ထိုအခါမှစ၍ တပည့်တော်မသည် နကုလပိတာကို ကျော်လွန်ပြီး ယောကျ်ားတစ်ပါးထံ စိတ်ရောက်ဖူးသည်ဟု မရှိခဲ့ဖူးပါ။ ကိုယ်ထိလက်ရောက် ကျူးလွန်မှုကား ဆိုဖွယ်ရာပင် မရှိတော့ပါ။ မြတ်စွာဘုရား၊ တပည့်တော်မတို့သည် ယခုဘဝ၌လည်း အချင်းချင်း တွေ့ဆုံပြီး နောင်ဘဝ သံသရာ၌လည်း အချင်းချင်း တွေ့ဆုံရန် အလိုရှိကြပါသည် ဘုရား´

ထိုအခါ မြတ်စွာဘုရားက ဤသို့ မိန့်တော်မူလေသည်။

`သူကြွယ်တို့၊ ဇနီးမောင်နှံနှစ်ယောက်တို့သည် အကယ်၍ ယခုဘဝ၌လည်း အချင်းချင်း တွေ့ဆုံပြီး နောင်ဘဝသံသရာမှာလည်း အချင်းချင်းတွေ့ဆုံချင်ကြလျှင် နှစ်ယောက်လုံးသည် တူမျှသော သဒ္ဓါရှိကြရမည်။ တူမျှသော အကျင့်သီလရှိကြရမည်။ တူမျှသော စွန့်ကြဲမှု စာဂရှိကြရမည်။ တူမျှသော အသိဉာဏ်ပညာရှိကြရမည်။ တူမျှသော သဒ္ဓါ၊ တူမျှသော သီလ၊ တူမျှသော စာဂ၊ တူမျှသော ပညာရှိကြလျှင် ထိုဇနီးမောင်နှံနှစ်ယောက်တို့သည် ယခုဘဝလည်း အချင်းချင်းတွေ့ဆုံပြီး နောင်ဘဝသံသရာမှာလည်း အချင်းချင်းတွေ့ဆုံကြရကုန်၏။

ဇနီးမောင်နှံ နှစ်ယောက်တို့သည် သဒ္ဓါတရားရှိကြ၏။ အလှူခံပုဂ္ဂိုလ်အလိုကို သိကြ၏။ ကိုယ်နှုတ်ကို စောင့်စည်းကြ၏။ ထိုဇနီးမောင်နှံတို့သည် အချင်းချင်းချစ်ဖွယ်စကားကို ပြောဆိုကြကုန်လျက် တရားသဖြင့် အသက်မွေးကြ၏။

အကျင့်သီလ တူမျှကြကုန်သော ဇနီးမောင်နှံနှစ်ယောက်တို့အား စီးပွားဥစ္စာတိုးပွားလျက် ချမ်းသာစွာနေထိုင်ရ၏။ ရန်သူများ မကောင်းမကြံနိုင်ပေ။

တူမျှသော သီလအကျင့်ရှိသော ဇနီးမောင်နှံနှစ်ဦးတို့သည် ယခုဘဝတွင် တရားကိုကျင့်၍ နောင်အခါ နတ်ပြည်လောက၌ နှစ်သက်မွေ့လျော်ကာ မတောင့်မတ လိုရာရလျက် ဝမ်းမြောက်ကြရကုန်၏။

စတုက္ကအင်္ဂုတ္တိုရ်၊ ဒု-ပဏ္ဏာသက၊
ပုညာဘိသန္ဒဝဂ်၊ ၅- ပဌမ သမဇီဝသုတ်။

## ရခဲသောအရာ ၄ မျိုး

အခါတစ်ပါး၌ မြတ်စွာဘုရားသည် အနာထပိဏ်သူဌေးအား လောက၌အလိုရှိအပ်သော၊ နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်းမလွယ်သော အရာလေးမျိုးကို ဤသို့ ဟော်တော်မူသည်။

ဒါယကာ၊ လောက၌ အလိုရှိအပ်သော နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်းမလွယ်သောအရာ လေးမျိုးရှိသည်။ အဘယ်လေးမျိုးနည်းဆိုသော် -

၁။ ငါ့အားတရားနှင့်အညီ စည်းစိမ်ဥစ္စာတို့ဖြစ်စေကုန်သတည်းဟူသောအရာသည် လောက၌ အလိုရှိအပ်နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်းမလွယ်သော ပဌမအချက်ဖြစ်သည်။

၂။ တရားနှင့်အညီ စည်းစိမ်ဥစ္စာတို့ကိုရ၍ ငါ့အား ဆွေမျိုးမိတ်သင်္ဂဟများနှင့်တကွ အခြံအရံသည် ရောက်လာပါစေသတည်း ဟူသောအရာသည် လောက၌ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်း မလွယ်သော ဒုတိယအချက်ဖြစ်သည်။

၃။ တရားနှင့်အညီ စည်းစိမ်ဥစ္စာတို့ကိုရ၊ ဆွေမျိုး မိတ်သင်္ဂဟများနှင့်တကွ အခြံအရံ ကိုလည်း ရ၍ အသက်ရှည်စွာ နေရပါလို၏ ဟူသောအရာသည် လောက၌ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်း မလွယ်သော တတိယအချက် ဖြစ်သည်။

၄။ တရားနှင့်အညီ စည်းစိမ်ဥစ္စာတို့ကိုရ၊ ဆွေမျိုးမိတ်သင်္ဂဟများနှင့်တကွ အခြံအရံ ကိုလည်းရ၊ အသက်ရှည်ရှည်လည်းနေရ၍ သေသောအခါ နတ်ပြည်ရောက်ရပါလို၏ ဟူသော အရာသည် လောက၌ အလိုရှိအပ်၊ နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်း မလွယ်သော စတုတ္ထအချက် ဖြစ်သည်။

ဒါယကာ၊ လောက၌ အလိုရှိအပ် နှစ်သက်မြတ်နိုးအပ်၍ ရဖို့လည်း မလွယ်သော ဤအရာလေးမျိုးကို ရဖို့ရန် အကြောင်းတရားလေးမျိုး ရှိသည်။

ယင်းတို့ကား -

၁။ သဒ္ဓါတရားနှင့်ပြည့်စုံခြင်း၊

၂။ အကျင့်သီလနှင့် ပြည့်စုံခြင်း၊

၃။ စွန့်ကြဲမှုနှင့် ပြည့်စုံခြင်း၊

၄။ ပညာနှင့် ပြည့်စုံခြင်း၊

ဤ ၄မျိုးတို့ပင် ဖြစ်သည်။

စတုက္ကအင်္ဂုတ္တိုရ်၊ ဒုတိယပဏ္ဏာသက၊

၂- ပတ္တကမ္မဝဂ်၊ ၁- မတ္တကမ္မသုတ်။

## လူကြီးဆိုတာ

ရဟန်းတို့၊ ငါဘုရားသည် ရဟန်းအဖြစ်သို့ရောက်တော်မူစက ဥရုဝေလတော၌နေစဉ် အသက်အရွယ်ကြီးသော ပုဏ္ဏားတို့သည် ငါဘုရားထံရောက်လာပြီးလျှင် ရဟန်းဂေါတမသည် အသက်ကြီးသော သူတို့ကို ရှိလည်းမခိုး၊ ခရီးဦးကြိုလည်းမပြု၊ နေရာလည်းမပေးဟု ကြားရသည်။ ကြားသည့်အတိုင်း အမှန်ဖြစ်နေသည်ဟု လျှောက်ထားကြလေသည်။

ရဟန်းတို့၊ ထိုအခါ ဤသူတို့သည် ကြီးသောသူတို့ကိုလည်းကောင်း၊ ကြီးသည့်အဖြစ်ကို ပြုတတ်သော တရားတို့ကိုလည်းကောင်း မသိကြလေတကားဟု ငါဘုရားအကြံ ဖြစ်မိသည်။

ရဟန်းတို့၊ မွေးဖွားသည်မှ အသက်ရှစ်ဆယ်၊ ကိုးဆယ်၊ တစ်ရာရှိ၍ အသက်ကြီးသူ ဖြစ်သော်လည်း မပြောသင့်သောအခါ၌ ပြောဆိုတတ်သောသူ၊ မဟုတ်မမှန်သည်ကို ပြောတတ်သောသူ၊ အကျိုးနှင့် မစပ်သည်ကို ပြောတတ်သောသူ၊ အဆုံးအမနှင့်မစပ်သည်ကို ပြောတတ်သောသူ၊ မသင့်သောအခါ ရည်ညွှန်းချက်မရှိ အပိုင်းအခြားမရှိ အစီးအပွားနှင့်မစပ်သော မမှတ်သားလောက်သည့်စကားကို ပြောတတ်သောသူဖြစ်လျှင် ထိုသူသည် လူကြီး လူမိုက်ဟူ၍သာ ရေတွက်ခြင်းသို့ရောက်၏။

ရဟန်းတို့၊ ပျိုမျစ်နုနယ်၍ ပဌမအရွယ်သာ ရှိသေးသော အသက်ငယ်သူဖြစ်သော်လည်း ပြောသင့်သောအခါ၌ ပြောဆိုတတ်သောသူ၊ ဟုတ်မှန်သည်ကို ပြောတတ်သောသူ၊ အကျိုးနှင့် စပ်သည်ကို ပြောတတ်သောသူ၊ တရားနှင့်စပ်သည်ကို ပြောတတ်သောသူ၊ အဆုံးအမနှင့် စပ်သည်ကို ပြောတတ်သောသူ၊ သင့်သောအခါ ရည်ညွှန်းချက်ရှိသော အပိုင်းအခြားရှိသော အစီးအပွားနှင့်စပ်သော မှတ်သားလောက်သောစကားကို ပြောတတ်သောသူ ဖြစ်လျှင် ထိုသူသည် လူကြီးပညာရှိ ဟူ၍သာ ရေတွက်ခြင်းသို့ ရောက်၏။

စတုက္ကအင်္ဂုတ္တိုရ်ပါဠိတော်၊

၃- ဥရုဝေလဝဂ်၊ ဒုတိယသုတ်။

## ဆင်းရဲကို ကြောက်သလား

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဇေတဝန်ကျောင်းတော် သာဝတ္ထိမြို့ထဲသို့ ဆွမ်းခံကြွတော်မူရာ လမ်း၌ ငါးဖမ်းနေကြသော သူငယ်တို့ကိုမြင်၍ သူငယ်တို့ အနားသို့ သွားပြီးလျှင် -

သူငယ်တို့၊ သူငယ်တို့သည် ဆင်းရဲဒုက္ခကို ကြောက်ကြသလား၊ ဆင်းရဲဒုက္ခကို မုန်းကြသလား- ဟု မေးတော်မူသည်။

သူငယ်တို့က ကြောက်ကြပါသည် ဘုရား- ဟု ဖြေကြသည်။ ထိုအခါ မြတ်စွာဘုရားက

အကယ်၍ ဆင်းရဲဒုက္ခကို ကြောက်ကြလျှင်၊ ဆင်းရဲဒုက္ခကို မုန်းကြလျှင် မကောင်းမှုကို လူမြင်ကွင်းမှာဖြစ်စေ၊ မမြင်ကွယ်ရာမှာဖြစ်စေ မလုပ်ကြနှင့်။ မကောင်းမှုကို ယခုလည်းပြု၊ နောင်လည်းပြုကြမည်ဆိုလျှင် ဆင်းရဲဒုက္ခမှ လွတ်မြောက်နိုင်မည် မဟုတ်ချေ- ဟု မိန့်ကြား ကျူးရင့်တော်မူသည်။

ဥဒါန်းပါဠိတော်။

၅- သောဏဝဂ်၊ ၄ - ကုမာရကသုတ်။

## ကိုယ့်ကိုယ်ကိုယ် အားကိုးကြ

မြတ်စွာဘုရားသည် ဝေသာလီပြည် ဝေဠုဝန်ရွာ၌ သီတင်းသုံးနေတော်မူစဉ် ရှင်အာနန္ဒာအား ဤသို့ ဟောတော်မူသည်။

`အာနန္ဒာ၊ ငါဘုရားသည် ယခုအခါ အိုမင်းကြီးရင့်ပြီ။ အသက်ကြီးပြီ။ ရှည်သောကာလသို့ ရောက်ခဲ့ပြီ။ သက်တော်ရှစ်ဆယ်ရှိပြီ။ လှည်းအိုကြီးသည် ချည်တုပ်ထားသဖြင့် မပြိုမလဲဘဲ တည်နေသကဲ့သို့ ငါဘုရား၏ ခန္ဓာကိုယ်သည်လည်း ပြုပြင်ထားသဖြင့် မပြိုမလဲဘဲ တည်နေခြင်း ဖြစ်သည်။

အာနန္ဒာ၊ ငါဘုရားသည် နိမိတ်အာရုံဟူသမျှကို နှလုံးမသွင်းဘဲ ခံစားမှုအချို့ ချုပ်ငြိမ်းခြင်းကြောင့် အာရုံနိမိတ်မရှိသော စိတ်တည်ငြိမ်မှု (အရဟတ္တဖိုလ် သမာဓိ) ကို ဝင်စားနေသောအခါ ငါဘုရား၏ကိုယ်သည် လွန်စွာချမ်းသာခြင်းဖြစ်၏။

အာနန္ဒာ၊ ထိုသို့ဖြစ်သောကြောင့် သူတစ်ပါးကို အားမကိုးမူ၍ မိမိကိုယ်ကို မှီခိုအားထားလျက် နေကြကုန်လော့၊ အခြားအရာကို အားမကိုးမူ၍ တရားကို မှီခိုအားထားလျက် နေကြကုန်လော့။

သံယုတ္တနိကာယ်၊ မဟာဝဂ္ဂသံယုတ်၊

၃- သတိပဋ္ဌာနသံယုတ်၊ ၁- အမ္ဗပါလိဝဂ်၊

၉- ဂိလာနသုတ်။



## နောင်ဘဝ

အခါတစ်ပါး၌ ရှင်အာနန္ဒာသည် မြတ်စွာဘုရားထံ ဆည်းကပ်၍ ဤသို့ မေးလျှောက်လေသည်။

`မြတ်စွာဘုရား၊ ဘဝ ဘဝဟု ဆိုပါသည်။ အဘယ်မျှလောက်သော အတိုင်းအရှည်ဖြင့် ဘဝဖြစ်ပါသနည်း။ ´ မြတ်စွာဘုရားက - အာနန္ဒာ၊ ကာမဘုံ၌ အကျိုးပေးသည့်ကံ မဖြစ်လျှင် ကာမဘဝသည် ထင်ရှားဖြစ်ပေါ်နိုင်မည်လော- ဟု မေးတော်မူ၏။

ရှင်အာနန္ဒာက - ကာမဘုံ၌အကျိုးပေးသည့်ကံမဖြစ်လျှင် ကာမဘဝသည် ထင်ရှား မဖြစ်ပေါ်နိုင်ပါဘုရား- ဟု ဖြေ၏။

အာနန္ဒာ၊ ဤသို့လျှင် ကံသည် လယ်ယာမြေနှင့် တူ၏။ ဝိညာဉ်သည် မျိုးစေ့နှင့်တူ၏။ တဏှာသည် ရေနှင့်တူ၏။ အဝိဇ္ဇာဖုံးလွှမ်းလျက် တဏှာအနှောင်အဖွဲ့ရှိနေကြသော သတ္တဝါတို့အား ယုတ်နိမ့်သောကာမဘုံ၌ ပဋိသန္ဓေ ဝိညာဉ်သည် တည်လေ၏။ ဤသို့လျှင် ဤဘဝနောက်၌ ဖြစ်ပေါ်မှု ဟူသော ဘဝသစ်သည် ဖြစ်လာလေ၏။

အာနန္ဒာ၊ ရူပဘုံ၌ အကျိုးပေးသည့်ကံ မဖြစ်လျှင် ရူပဘဝသည် ထင်ရှားဖြစ်ပေါ်နိုင် မည်လော။

မဖြစ်ပေါ်နိုင်ပါဘုရား။

အရူပဘုံ၌ အကျိုးပေးသည့်ကံ မဖြစ်လျှင် အရူပဘဝသည် ထင်ရှားဖြစ်ပေါ်နိုင်ပါမည်လော။

မဖြစ်ပေါ်နိုင်ပါဘုရား။

အာနန္ဒာ၊ ဤသို့လျှင် ကံသည် လယ်ယာမြေနှင့်တူ၏။ ဝိညာဉ်သည် မျိုးစေ့နှင့် တူ၏။ တဏှာသည် ရေနှင့်တူ၏။ အဝိဇ္ဇာဖုံးလွှမ်းလျက် တဏှာအနှောင်အဖွဲ့ရှိနေကြသော သတ္တဝါတို့အား

အလယ်အလတ်ဖြစ်သော ရူပဘုံ၊ မြတ်သော အရူပဘုံတို့၌ ပဋိသန္ဓေဝိညာဉ်သည် တည်လေ၏။ ဤသို့လျှင် ဤဘဝနောက်၌ တစ်ဖန်ဖြစ်ပေါ်မှုဟူသော ဘဝသစ်သည် ဖြစ်လာလေ၏။

တိကအင်္ဂုတ္တိုရ်၊ ဒုတိယပဏ္ဏာသက၊

၃- အာနန္ဒာဝဂ်၊ ၆- ပဌမဘဝသုတ်။

## မလွဲနိုင်တာကို လုပ်ပါ

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ကောသလတိုင်း၌ ဒေသစာရီ လှည့်လည်တော်မူရင်း သာလာဆိုသော ပြာဟ္မဏရွာသို့ ရောက်တော်မူသည်။ သာလရွာသား ပြာဟ္မဏတို့သည် မြတ်စွာဘုရားဆိုက်ရောက်တော်မူလာကြောင်း ကြားသဖြင့် မြတ်စွာဘုရားထံသို့ ဆည်းကပ်လာကြသည်။

မြတ်စွာဘုရားက သာလာရွာသားတို့အား - ဒါယကာတို့၊ သင်တို့မှာ အခိုင်အမာ ယုံကြည်စိတ်ချရသည့် ကျေနပ်လောက်သောဆရာ ရှိပါ၏လော ဟု မေးတော်မူ၏။

ဒါယကာတို့က - တပည့်တော်တို့မှာ အခိုင်အမာ ယုံကြည်စိတ်ချရသည့် ကျေနပ်လောက်သော ဆရာ မရှိသေးပါ ဟု လျှောက်ကြလေသည်။

မြတ်စွာဘုရားက - ဒါယကာတို့၊ သင်တို့သည် နှစ်သက်ကျေနပ်လောက်သောဆရာကို မရကြသေးလျှင် ဤမလွဲနိုင်သောအကျင့်တရားသည် ဆောက်တည်ကျင့်သုံးထိုက်သည်။ မလွဲနိုင်သောအကျင့်တရားကို ဆောက်တည်ကျင့်သုံးလျှင် ထိုအကျင့်တရားသည် သင်တို့အတွက် ခုရော နောင်ပါ သံသရာရှည်သမျှ ကာလပိတ်လုံး အကျိုးရှိဖို့ ဖြစ်ပေလတ္တံ့။

မြတ်စွာဘုရားသည် ဤသို့မိန့်တော်မူပြီးလျှင် မလွဲနိုင်သောအကျင့်တရားကို အောက်ပါအတိုင်း မိန့်ကြားတော်မူသည်။

ဒါယကာတို့၊ အချို့သော ဘာသာရေးခေါင်းဆောင် ရဟန်း ပုဏ္ဏားတို့သည် -

၁။ အနည်းငယ် ပေးလှူခြင်း၏အကျိုးမရှိ။

၂။ အကြီးအကျယ် ပေးလှူခြင်း၏အကျိုးမရှိ။

၃။ ဧည့်သည်တို့အား ပြုစုလှူဒါန်းခြင်း၏အကျိုးမရှိ။

၄။ ကောင်းမှု မကောင်းမှုတို့၏အကျိုးမရှိ။

၅။ တစ်ပါးသောလောကရှိ သတ္တဝါအဖို့ (ကုသိုလ်ကံဖြင့် ရနိုင်သည်ဆိုသည့်) ဤလောက မရှိ။

၆။ ဤလောကရှိ သတ္တဝါအဖို့ (ကုသိုလ်ကံဖြင့် ရနိုင်သည်ဆိုသည့်) တစ်ပါးသော လောကမရှိ။

၇။ အမိ၌ လုပ်ကျွေးပြုစုခြင်း၏အကျိုးမရှိ။

၈။ အဖ၌ လုပ်ကျွေးပြုစုခြင်း၏အကျိုးမရှိ။

၉။ ဘဝတစ်ခုက စုတေပြီးဖြစ်လာသောသတ္တဝါဟု မရှိ။

၁၀။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသော လောကကိုလည်းကောင်း၊ ကိုယ်တိုင်ထူးသောဉာဏ်ဖြင့် သိ၍ ရှိသည်ဟု ပြောနိုင်သည့် အဘိညာဉ်ရ ရဟန်း ပုဏ္ဏားတို့သည် လောက၌ မရှိဟု အယူရှိကြလေသည်။

ထိုပုဂ္ဂိုလ်နှင့်ဆန့်ကျင်ဘက်အယူဝါဒရှိသော အချို့သော ဘာသာရေးခေါင်းဆောင် ရဟန်း ပုဏ္ဏားတို့လည်း ရှိသည်။ ထိုပုဂ္ဂိုလ်တို့ကမူ -

၁။ အနည်းငယ် ပေးလှူခြင်း၏အကျိုးရှိ၏။

၂။ အကြီးအကျယ် ပေးလှူခြင်း၏အကျိုးရှိ၏။

၃။ ဧည့်သည်တို့အား ပြုစုလှူဒါန်းခြင်း၏အကျိုးရှိ၏။

၄။ ကောင်းမှု မကောင်းမှုတို့၏ အကျိုးရှိ၏။

၅။ တစ်ပါးသောလောကရှိ သတ္တဝါအဖို့ (ကုသိုလ်ကံဖြင့် ရနိုင်သည်ဆိုသည့်) ဤလောကရှိသည်။

၆။ ဤလောကရှိ သတ္တဝါအဖို့ (ကုသိုလ်ကံဖြင့် ရနိုင်သည်ဆိုသည့်) တစ်ပါးသော လောကရှိသည်။

၇။ အမိ၌ လုပ်ကျွေးပြုစုခြင်း၏အကျိုးရှိ၏။

၈။ အဖ၌ လုပ်ကျွေးပြုစုခြင်း၏အကျိုးရှိ၏။

၉။ ဘဝတစ်ခုက စုတေပြီး ဖြစ်လာသော သတ္တဝါရှိ၏။

၁၀။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကိုလည်းကောင်း၊ ကိုယ်တိုင် ထူးသော ဉာဏ်ဖြင့်သိ၍ ရှိသည်ဟု ပြောနိုင်သည့် အဘိညာဉ်ရ ရဟန်း ပုဏ္ဏားတို့သည် လောက၌ ရှိ၏ -ဟု အယူရှိကြလေသည်။

ဒါယကာတို့၊ မည်သို့သော သဘောရှိကြသနည်း။ ထိုဆရာနှစ်မျိုးတို့သည် တစ်ဦးနှင့်တစ်ဦး ဖြောင့်ဖြောင့်ဆန့်ကျင်သော အယူဝါဒရှိနေကြသည် မဟုတ်လော။

သည်အတိုင်း မှန်ပါသည် ဘုရား။

ဒါယကာတို့၊ ယင်းသို့ အယူရှိကြသော ပုဂ္ဂိုလ်နှစ်မျိုးတွင် အနည်းငယ်ပေးလှူခြင်း၏အကျိုး မရှိပေ။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကို လည်းကောင်း၊ ကိုယ်တိုင်ထူးသော ဉာဏ်ဖြင့် သိ၍ ရှိသည်ဟု ပြောနိုင်သည့် အဘိညာဉ်ရ ရဟန်း ပုဏ္ဏားတို့သည် လောက၌ မရှိဟု အယူရှိသော ပထမပုဂ္ဂိုလ်တို့အား ကောင်းမှု သုစရိုက်တရားကို ဖျက်ဆီး၍ မကောင်းမှု ဒုစရိုက်တရားကို ပြုလုပ်ကြလတ္တံ့ ဟူသော အပြစ်သာ ဧကန်ဖြစ်ရမည်။ အဘယ်ကြောင့်ဆိုသော် ထိုပုဂ္ဂိုလ်တို့သည် မကောင်းမှု ဒုစရိုက်တရားတို့၏အပြစ်နှင့် ညစ်ညူးပုံကိုလည်း မမြင်၊ ကောင်းမှုသုစရိုက်တရားတို့၏ အကျိုးနှင့် ဖြူစင်ပုံကိုလည်း မမြင်သောကြောင့် ဖြစ်သည်။

ထိုပုဂ္ဂိုလ်သည် အမှန်ရှိသည်သာဖြစ်သော နောင်ဘဝကို နောင်ဘဝမရှိဟု အယူရှိ၏။ သူ၏အယူသည် မှားသောအယူဖြစ်၏။ အမှန်ရှိသောနောင်ဘဝကို နောင်ဘဝမရှိဟု တွေးခေါ်၏။ သူ၏ အတွေးအခေါ်သည် မှားသောအတွေးအခေါ်ဖြစ်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝမရှိဟု ပြောဆို၏။ သူ၏ ပြောဆိုချက်သည် မှားသော ပြောဆိုချက် ဖြစ်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝမရှိဟု ဆိုကာ နောင်ဘဝကို သိကြသော ရဟန္တာပုဂ္ဂိုလ်တို့ကို ဆန့်ကျင်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝမရှိဟု အခြားသူများအား မှတ်ယူစေ၏။ ယင်းသို့ မှတ်ယူစေခြင်းသည် အမှားကို မှတ်ယူစေခြင်းပင်ဖြစ်၏။ ယင်းသို့ အမှားကို မှတ်ယူစေခြင်းဖြင့် မိမိကိုယ်မိမိ (ငါမှတစ်ပါး အဘယ်သူသည် မိမိအယူကို သူတစ်ပါးအား ယူစေနိုင်လိမ့်နည်းဟု) ဝင့်ကြွား၏။ သူတစ်ပါးတို့ကို (ဤသူတို့သည် တစ်ယောက်မျှ မိမိအယူကို သူတစ်ပါးအား ယူစေခြင်းငှာ မစွမ်းနိုင်ဟု) ရှုတ်ချ၏။

ဤသို့လျှင် ထိုပုဂ္ဂိုလ်အား ကောင်းသောသဘောသည် ပယ်ထားနှင့်ပြီးဖြစ်လျက် မကောင်းသော သဘောသာ ရှေ့ရှုတည်နေလေသည်။

ဤမှားသောအယူ၊ မှားသော အတွေးအခေါ်၊ မှားသော ပြောဆိုချက်၊ ရဟန္တာတို့နှင့် ဆန့်ကျင်မှု အမှားကို မှတ်ယူစေမှု၊ ဝင့်ကြွားမှု၊ သူတစ်ပါးကို ရှုတ်ချမှု ဟူသော ယုတ်မာသော အကုသိုလ်တရားတို့သည် ထိုပုဂ္ဂိုလ်အား အယူမှားခြင်းဟူသောအကြောင်းကြောင့် ဖြစ်ပေါ်လာကုန်၏။

ဒါယကာတို့၊ ထိုအယူနှစ်မျိုးတွင် ဆင်ခြင်ဉာဏ်ရှိသောသူသည် ဤသို့ စဉ်းစား၏။

အကယ်၍ နောင်ဘဝသည် မရှိငြားအံ့၊ ယင်းသို့နောင်ဘဝမရှိလျှင် ဤပုဂ္ဂိုလ်သည် သေပြီးနောက် မိမိကိုယ်ကို ချမ်းသာအောင် ပြုလတ္တံ့၊ အကယ်၍ နောင်ဘဝသည် ရှိငြားအံ့၊ ယင်းသို့

နောင်ဘဝရှိလျှင် ဤပုဂ္ဂိုလ်သည် သေပြီးနောက် အပါယ်ငရဲသို့ ရောက်လတ္တံ့၊ နောင်ဘဝသည် အကယ်ပင်မရှိဟု ထားပါဦး၊ ထိုပုဂ္ဂိုလ်၏စကား မှန်သည်ဟုပင် ထားပါဦး၊ စင်စစ်အားဖြင့်ကား ဤပုဂ္ဂိုလ်မှာ မျက်မှောက်ဘဝ၌ပင် `သီလမရှိသောသူ၊ အယူမှားသောသူ´ ဟူ၍ ပညာရှိတို့၏ ကဲ့ရဲ့ခြင်းကို ခံရပေမည်။ အကယ်၍ နောင်ဘဝသည် ရှိသည်သာလျှင် ဖြစ်မူကား ဤပုဂ္ဂိုလ်သည် မျက်မှောက်ဘဝ၌လည်း ပညာရှိတို့၏ ကဲ့ရဲ့ခံရခြင်း၊ သေပြီးနောက်၌လည်း အပါယ်ငရဲသို့ ရောက်ရခြင်းအားဖြင့် နှစ်ဖက်စလုံး ရှုံးလေတော့၏။

ဤသို့လျှင် ထိုသူ၏ အယူမှားယွင်းမှုကြောင့် မလွဲနိုင်သောအကျင့်တရားသည် တစ်ဖက်သက်ဖြစ်နေ၏။ (နောင်ဘဝမရှိလျှင်သာ ချမ်းသာနိုင်၏) ကုသိုလ်အရာကို ကြဉ်ရှောင်၏။

ဒါယကာတို့၊ ယင်းသို့အယူရှိကြသောပုဂ္ဂိုလ်နှစ်မျိုးတွင် အနည်းငယ်ပေးလှူခြင်း၏ အကျိုးရှိ၏။ပ။ ဤလောကကိုလည်းကောင်း၊ တစ်ပါးသောလောကကိုလည်းကောင်း ကိုယ်တိုင် ထူးသောဉာဏ်ဖြင့်သိ၍ ရှိသည်ဟု ပြောနိုင်သည့် အဘိညာဉ်ရ ရဟန်း ပုဏ္ဏားတို့သည် လောက၌ ရှိ၏ဟု အယူရှိသော ဒုတိယပုဂ္ဂိုလ်တို့အား မကောင်းမှု ဒုစရိုက်တရားကို ဖျက်ဆီး၍ ကောင်းမှု သုစရိုက်တရားကို ပြုလုပ်ကြလတ္တံ့ ဟူသောအကျိုးသာ ဧကန်ဖြစ်ရမည်။ အဘယ့်ကြောင့်ဆိုသော် ထိုပုဂ္ဂိုလ်တို့သည် မကောင်းမှု ဒုစရိုက်တရားတို့၏ အပြစ်နှင့် ညစ်ညူးပုံကိုလည်း မြင်၍၊ ကောင်းမှု သုစရိုက်တရားတို့၏ အကျိုးနှင့် ဖြူစင်ပုံကိုလည်း မြင်သောကြောင့် ဖြစ်သည်။

ထိုပုဂ္ဂိုလ်သည် အမှန်ရှိသည်သာလျှင်ဖြစ်သော နောင်ဘဝကို နောင်ဘဝရှိ၏ ဟု အယူရှိ၏။ သူ၏အယူသည် မှန်သောအယူဖြစ်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝရှိ၏ဟု တွေးခေါ်၏ သူ၏အတွေးအခေါ်သည် မှန်သောအတွေးအခေါ်ဖြစ်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝရှိ၏ဟု ပြောဆို၏။ သူ၏ ပြောဆိုချက်သည် မှန်သောပြောဆိုချက် ဖြစ်၏။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝရှိ၏ဟုဆိုကာ နောင်ဘဝကို သိကြသော ရဟန္တာပုဂ္ဂိုလ်တို့ကို မဆန့်ကျင်။ အမှန်ရှိသော နောင်ဘဝကို နောင်ဘဝရှိ၏ဟု အခြားသူများအား မှတ်ယူစေ၏။ ယင်းသို့ မှတ်ယူစေခြင်းသည် အမှန်တရားကို မှတ်ယူစေခြင်းပင် ဖြစ်၏။ ယင်းသို့ အမှန်တရားကို မှတ်ယူစေခြင်းဖြင့်လည်း မိမိကိုယ်ကို မိမိ မဝံ့ကြွား။ သူတစ်ပါးကိုလည်း မရှုတ်ချ။

ဤသို့လျှင် ထိုပုဂ္ဂိုလ်အား မကောင်းသောသဘောသည် ပယ်ထားနှင့်ပြီးဖြစ်လျက် ကောင်းသော သဘောသာ ရှေ့ရှုတည်နေလေသည်။

ဤမှန်သောအယူ၊ မှန်သောအတွေးအခေါ်၊ မှန်သော ပြောဆိုချက်၊ ရဟန္တာတို့နှင့် မဆန့်ကျင်မှု၊ အမှန်တရားကို မှတ်ယူစေမှု၊ မဝင့်ကြွားမှု၊ သူတစ်ပါးကို မရှုတ်ချမှု ဟူသော ကုသိုလ်တရားတို့သည် အယူမှန်ခြင်း ဟူသော အကြောင်းကြောင့် ဖြစ်ပေါ်လာကုန်၏။

ဒါယကာတို့၊ ထိုအယူနှစ်မျိုးတွင် ဆင်ခြင်ဉာဏ်ရှိသောသူသည် ဤသို့ စဉ်းစား၏။

အကယ်၍ နောင်ဘဝသည် ရှိငြားအံ့၊ ယင်းသို့ နောင်ဘဝရှိလျှင် ဤပုဂ္ဂိုလ်သည် သေပြီးနောက် နတ်ပြည်လောကသို့ ရောက်ရလတ္တံ့၊ နောင်ဘဝသည် အကယ်ပင်မရှိဟု ထားဦး၊ ပထမပုဂ္ဂိုလ်၏စကားမှန်သည်ဟုပင် ထားပါဦး၊ စင်စစ်အားဖြင်ကား ဤ ပုဂ္ဂိုလ်မှာ မျက်မှောက်ဘဝ၌ပင် ` သီလရှိသောသူ၊ အယူမှန်သောသူ´ ဟူ၍ ပညာရှိတို့၏ ချီးမွမ်းခြင်းကို ခံရပေမည်။ အကယ်၍ နောင်ဘဝသည် ရှိသည်သာလျှင် ဖြစ်မူကား ဤပုဂ္ဂိုလ်မှာ မျက်မှောက်ဘဝ၌လည်း ပညာရှိတို့၏ ချီးမွမ်းခံရခြင်း၊ သေပြီးနောက်၌လည်း နတ်ပြည်လောကသို့ ရောက်ရခြင်းအားဖြင့် နှစ်ဖက်စလုံး၌ အရှုံးမရှိ။

ဤသို့လျှင် ထိုသူ၏ အယူမှန်ကန်မှုကြောင့် မလွဲနိုင်သော အကျင့်တရားသည် နောင်ဘဝရှိလည်းမရှုံး မရှိလည်း မရှုံး နှစ်ဖက်စလုံး အကျိုးရှိ၏။ အကုသိုလ်အရာကို ကြဉ်ရှောင်၏။

မဇ္ဈိမပဏ္ဏာသ ပါဠိတော်၊

အပဏ္ဏကသုတ်။

## တကယ့်အမှန်

ရဟန်းတို့၊ ဤတရားလေးမျိုးတို့သည် မှန်ကန်ကုန်၏။ မချွတ်လွဲကုန်၊ မပြောင်းလဲကုန်၊ (တစ်မျိုးမဖြစ်ကုန်)၊ အဘယ်တရားလေးမျိုးတို့ နည်းဟူမူကား-

၁။ ဤဒုက္ခသစ္စာတရားသည် ဆင်းရဲအမှန်သာ ဖြစ်၏။ မချွတ်လွဲ၊ ပြောင်းလဲခြင်းမရှိ။

၂။ ဤသမုဒယသစ္စာတရားသည် ဆင်းရဲခြင်း၏ အကြောင်းမှန်သာ ဖြစ်၏။ မချွတ်လွဲ၊ ပြောင်းလဲခြင်းမရှိ။

၃။ ဤ နိရောဓသစ္စာတရားသည် ဆင်းရဲချုပ်ခြင်း အမှန်သာဖြစ်၏။ မချွတ်လွဲ၊ ပြောင်းလဲခြင်းမရှိ။

၄။ ဤမဂ္ဂသစ္စာတရားသည် ဆင်းရဲချုပ်ခြင်းသို့ ရောက်ကြောင်းအမှန်သာ ဖြစ်၏။ မချွတ်လွဲ၊ ပြောင်းလဲခြင်းမရှိ။

ရဟန်းတို့၊ ဤတရားလေးမျိုးတို့သည် မှန်ကန်ကုန်၏။ မချွတ်လွဲကုန်၊ မပြောင်းလဲကုန်၊ ယင်းသို့ဖြစ်သောကြောင့် ဤတရားသည် ဆင်းရဲခြင်းအမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲခြင်း၏အကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲချုပ်ခြင်းအမှန်တည်းဟု သိအောင် အားထုတ်ရမည်။ ဤတရားသည် ဆင်းရဲချုပ်ခြင်းသို့ ရောက်ကြောင်း အမှန်တည်းဟု သိအောင် အားထုတ်ရမည်။

မဟာဝဂ္ဂသံယုတ်၊ ၁၂- သစ္စသံယုတ်၊
၃- ဓမ္မစက္ကပဝတ္တနဝဂ်၊ ၁၀- တထသုတ်။

## သီဟသေနာပတိ ဘာသာပြောင်းစဉ်က

အခါတစ်ပါး၌ မြတ်စွာဘုရားသည် ဝေသာလီပြည် မဟာဝုန်တော ပြဿာဒ်ကျောင်း၌ သီတင်းသုံးတော်မူစဉ် နိဂဏ္ဍ၏ တပည့်ဖြစ်သော စစ်သေနာပတိကြီး သီဟသည် အလွန်ထင်ရှားသော လစ္ဆဝီမင်းတို့က မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးကို ချီးကျူးပြောဆိုကြသည်ကို ကြားသဖြင့် ` မြတ်စွာဘုရားသည် အမှန်မုချပင် သိတော်မူသော ဘုရားဖြစ်ပေလိမ့်မည်။ ထို့ကြောင့်ပင် အလွန်ထင်ရှားသော လစ္ဆဝီမင်းတို့သည် မြတ်စွာဘုရား၏ဂုဏ်ကျေးဇူးကို ချီးကျူး ပြောဆိုကြခြင်းဖြစ်သည်။ ငါသည် မြတ်စွာဘုရားထံ သွားရောက်ဖူးမြော်ရလျှင် ကောင်းမည် ´ ဟု အကြံဖြစ်လေသည်။

ထို့နောက် စစ်သေနာပတိကြီး သီဟသည် သူ့ဆရာဖြစ်သော နိဂဏ္ဍထံသို့ သွားရောက်၍ မြတ်စွာဘုရားထံ သွားရောက်ဖူးမြော်လိုကြောင်းကို လျှောက်ထားလေသည်။

ထိုအခါ နိဂဏ္ဍက- သီဟ၊ သင်သည် ပြုထိုက်၏ဟူသော ကရိယဝါဒ အယူရှိသူဖြစ်လျက် အဘယ့်ကြောင့် မပြုထိုက်ဟူသော အကရိယဝါဒအယူရှိသူ ရဟန်းဂေါတမကို သွားရောက် ဖူးမြော်ချင်ရသနည်း ဟုဆိုကာ ဖျက်လေသည်။

သီဟစစ်သေနာပတိသည် သုံးကြိမ်တိုင်တိုင်ပင် မြတ်စွာဘုရားထံသွားရောက် ဖူးမြော်ရန် အကြံဖြစ်၍ အကြံဖြစ်ရတိုင်းပင် နိဂဏ္ဍအားပန်ကြားပြောဆိုသည်။ နိဂဏ္ဍကလည်း သုံးကြိမ်လုံးပင် အထက်ပါအတိုင်း ပြော၍ ဖျက်သည်။ နောက်တစ်ကြိမ်၌ကား သီဟ စစ်သေနာပတိသည် နိဂဏ္ဍကို မပန်ကြားဘဲ မြတ်စွာဘုရားထံသို့ ရောက်လာသောအခါ သီဟစစ်သေနာပတိက -

အရှင်ဘုရား၊ ရဟန်းဂေါတမသည် မပြုထိုက်ဟူသော အကရိယဝါဒအယူရှိ၏။ မပြုစိမ့်သောငှာ တရားဟော၏။ ထိုအကရိယဝါဒဖြင့်ပင် တပည့်တို့ကို ဆုံးမ၏ဟု တပည့်တော်ကြားဖူးပါသည်။ ထိုသို့ကြားရသည့်အတိုင်း ဟုတ်မှန်ပါသလား -ဟု မေးလျှောက်လေ၏။

ထိုအခါ မြတ်စွာဘုရားက ဤသို့ဖြေရှင်းမိန့်ကြားတော်မူသည်။

သီဟ- နည်းပရိယာယ်တစ်မျိုးအားဖြင့် ရဟန်းဂေါတမသည် မပြုထိုက်ဟူသော အကရိယဝါဒ အယူရှိ၏။ မပြုစိမ့်သောငှာတရားဟော၏။ ထို အကရိယဝါဒဖြင့်ပင် တပည့်တို့ကို ဆုံးမ၏ -ဟု ငါ့ကိုပြောဆိုလိုလျှင် ပြောဆိုနိုင်၏။ ထိုနည်းပရိယာယ်မျိုးသည် ရှိ၏။

သီဟ- နည်းပရိယာယ်တစ်မျိုးအားဖြင့် ရဟန်းဂေါတမသည် ပြုထိုက်၏ဟူသော ကရိယဝါဒအယူရှိ၏။ ပြစ်မှိသောငှာ တရားဟော၏။ ထို ကရိယဝါဒဖြင့်ပင် တပည့်တို့ကို ဆုံးမ၏ -ဟု ငါ့ကိုပြောဆိုလိုလျှင် ပြောဆိုနိုင်၏။ ထိုနည်း ပရိယာယ်မျိုးသည် ရှိ၏။

သီဟ- ငါသည် ကိုယ်ဖြင့် ပြုအပ်သော မကောင်းမှု ကာလဒုစရိုက်၊ နှုတ်ဖြင့် ပြုအပ်သောမကောင်းမှု ဝစီဒုစရိုက်၊ စိတ်ဖြင့်ပြုအပ်သော မကောင်းမှု မနောဒုစရိုက်ကို မပြုထိုက်ဟု ဟောတော်မူသည်။ များစွာကုန်သော ယုတ်မာသည့် အကုသိုလ်တရားတို့ကို မပြုထိုက်ဟု ဟောတော်မူသည်။ သီဟ ဤသို့သော နည်းပရိယာယ်ဖြင့် ရဟန်းဂေါတမသည် မပြုထိုက်ဟူသော အကရိယဝါဒ အယူရှိ၏။ မပြုစိမ့်သောငှာ တရားဟော၏။ ထို အကရိယဝါဒဖြင့်ပင် တပည့်တို့ကို ဆုံးမ၏ -ဟု ငါ့ကိုပြောဆိုလိုလျှင် ပြောဆိုနိုင်၏။

သီဟ၊ ငါသည် ကိုယ်ဖြင့် ပြုအပ်သောကောင်းမှု ကာယသုစရိုက်၊ နှုတ်ဖြင့်ပြုအပ်သော ကောင်းမှု ဝစီသုစရိုက်၊ စိတ်ဖြင့်ပြုအပ်သောကောင်းမှု မနောသုစရိုက် ကို ပြုထိုက်၏ -ဟု ဟောတော်မူသည်။ များစွာကုန်သော ကုသိုလ်တရားတို့ကို ပြုထိုက်၏ဟု ဟောတော်မူသည်။ သီဟ၊ ဤသို့သော နည်းပရိယာယ်ဖြင့် ရဟန်းဂေါတမသည် ပြုထိုက်၏ဟူသော ကရိယဝါဒအယူရှိ၏။ ပြုစိမ့်သောငှာ တရားဟော၏။ ထိုကရိယဝါဒဖြင့်ပင် တပည့်တို့ကို ဆုံးမ၏ -ဟု ငါ့ကို ပြောဆိုလိုလျှင် ပြောဆိုနိုင်၏။

ဤသို့ မြတ်စွာဘုရားက အကျယ်တဝင့် ဖြေရှင်းမိန့်ကြားတော်မူသော အခါ သီဟ စစ်သေနာပတိသည် လွန်စွာနှစ်မြို့က်လှသောကြောင့် -

ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ တပည့်တော်သည် မြတ်စွာဘုရားကို ကိုးကွယ်ဆည်းကပ်ပါ၏။ ထိုတရားတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ သံဃာတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ တပည့်တော်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ဘုရား တရား သံဃာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သူ (ဗုဒ္ဓဘာသာ) ဟူ၍ မှတ်တော်မူပါဘုရား -ဟု လျှောက်လေ၏။

မြတ်စွာဘုရားက - သီဟ၊ စဉ်းစဉ်းစားစားပြုလုပ်ပါ။ သင်တို့လို ထင်ရှားသော ပုဂ္ဂိုလ်များအဖို့ စဉ်းစဉ်းစားစားပြုလုပ်ခြင်းသည် ကောင်း၏ -မိန့်တော်မူလေသည်။

ထိုအခါ သီဟစစ်သူကြီးက - ဘုန်းတော်ကြီးသောမြတ်စွာဘုရား၊ မြတ်စွာဘုရားက ယခုလို မိန့်ကြားတော်မူလိုက်သည့်အတွက် တပည့်တော် အတိုင်းထက်အလွန် ဝမ်းသာအားရဖြစ်ပါသည်။ အခြားသော တိတ္ထိတို့သာဆိုလျှင် တပည့်တော်လို ဥပသကာတပည့်ဒကာမျိုးကို ရပါက- သီဟစစ်သေနာပတိကြီး ငါတို့ တပည့်ဒကာမျိုကိုရပါက - သီဟစစ်သေနာပတိကြီး ငါတို့ တပည့်ဒကာဖြစ်ပြီဟု တစ်မြို့လုံး လှည့်လည်ကြွေးကြော်ကာ တံခွန်အောင်လံစိုက်ထူကြမည် အမှန်ဖြစ်သည်။ မြတ်စွာဘုရားကမူ - သီဟ၊ စဉ်းစဉ်းစားစားပြုလုပ်ပါ။ သင်တို့လို ထင်ရှားသော

ပုဂ္ဂိုလ်များအဖို့ စဉ်းစဉ်းစားစားပြုလုပ်ခြင်းသည် ကောင်း၏ -ဟု မိန့်တော်မူပေသည်။ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ဒုတိယအကြိမ်ထပ်၍ လျှောက်ပါသည်။ တပည့်တော်သည် မြတ်စွာဘုရားကို ကိုးကွယ်ဆည်းကပ်ပါ၏။ ထိုတရားတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။

သံဃာတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ တပည့်တော်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ဘုရား တရား သံဃာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သူ (ဗုဒ္ဓဘာသာ) ဟူ၍ မှတ်တော်မူပါဘုရား -ဟု လျှောက်လေ၏။

မြတ်စွာဘုရားက - သီဟ၊ သင့်အိမ်သည် နိဂဏ္ဍတို့အတွက် အလှူဝတ် အမြဲတည်သောအိမ် ဖြစ်သည်။ ယခုငါဘုရားသည် ကိုးကွယ်သော်လည်း နိဂဏ္ဍတို့အား လှူမြဲဝတ်ကို မဖြတ်ပါနှင့် -ဟုမိန့်တော်မူသည်။

သီဟ စစ်သေနာပတိကြီးက ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ယခုမိန့်ကြားတော်မူလိုက်သည့် စကားကြောင့်လည်း တပည့်တော်အတိုင်းထက်အလွန်ပင် ဝမ်းသာ အားရဖြစ်ပါသည်။ တပည့်တော်ကြားထားသည်မှာ - ဂေါတမမြတ်စွာဘုရားသည် ငါ့ကိုသာလှူဒါန်းကြ၊ ငါ့တပည့်သာဝကတို့ကိုသာ လှူဒါန်းကြ၊ ငါ့ကိုလှူသော အလှူသာအကျိုးကြီးသည်။ ငါ့တပည့်သာဝကတို့ကို လှူသောအလှူသာ အကျိုးကြီးသည်။ အခြားသူတို့ကို လှူသောအလှူသည် အကျိုးမကြီးဟု ဟောလေ့ရှိသည် -ဟူ၍ဖြစ်ပါသည်။ ယခုသော် မြတ်စွာဘုရားသည် တပည့်တော်ကို နိဂဏ္ဍတို့အား ပေးလှူရန်ဆောက်တည်စေတော်မူသည်။ မြတ်စွာဘုရား၊ တပည့်တော်တို့သည် ပေးလှူခြင်း၌ အခါကာလကို သိပါကုန်အံ့။

ဘုန်းတော်ကြီးသောမြတ်စွာဘုရား၊ သုံးကြိမ်မြောက် ထပ်၍လျှောက်ပါသည်။ တပည့်တော်သည် မြတ်စွာဘုရားကို ကိုးကွယ်ဆည်းကပ်ပါ၏။ တရားတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ သံဃာတော်ကို ကိုးကွယ်ဆည်းကပ်ပါ၏။ တပည့်တော်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ဘုရား တရား သံဃာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သူ(ဗုဒ္ဓဘာသာ) ဟူ၍ မှတ်တော်မူပါဘုရား -ဟု လျှောက်ထားလေ၏။

အင်္ဂုတ္တိုရ်၊ ၂- မဟာဝဂ်၊

၂- သီဟသုတ်။

# လူ့သဘာဝ ဖြစ်ရိုးဖြစ်စဉ်

ရဟန်းတို့၊ အကြောင်းသုံးရပ်တို့၏ ပေါင်းဆုံခြင်းကြောင့် ပဋိသန္ဓေကိုယ်ဝန်တည်မှုဖြစ်၏။ မိဖနှစ်ဦးတို့လည်း ပေါင်းဖော်ကုန်၏။ အမိကလည်း ဥတုလာပြီး စဖြစ်၏။ အမိဝမ်းသို့ရောက်ထိုက်သူ သတ္တဝါလည်း ရှေ့ရှုတည်လျက် အသင့်ရှိ၏။ ဤအကြောင်းသုံးရပ်တို့၏ ပေါင်းဆုံခြင်းကြောင့် ပဋိသန္ဓေကိုယ်ဝန်တည်မှုသည် ဖြစ်နိုင်ပေ၏။

ရဟန်းတို့၊ ထိုကိုယ်ဝန်(သန္ဓေသား)ကို မိခင်သည် ကိုးလဖြစ်စေ၊ ဆယ်လဖြစ်စေ ဝမ်းဖြင့်လွယ်ရ၏။ မိမိနှင့်ကလေးပါ အသက်ရှင်ရေးအတွက် ကြီးစွာသော သံသယဖြင့် လေးလံသော ဝန်ကြီးကို လွယ်ရ၏။ ထိုကိုယ်ဝန်ကို ကိုးလလွန်သောအခါ၌ဖြစ်စေ၊ ဆယ်လလွန်သောအခါ၌ ဖြစ်စေ မိမိနှင့်ကလေးပါ အသက်ရှင်ရေးအတွက် ကြီးစွာသောသံသယဖြင့် လေးလံသောဝန်ကြီးကို မွေးဖွားရ၏။ မွေးဖွားပြီးနောက် ထိုသားငယ်ကို မိမိ၏သွေးဖြင့် တိုက်ကျွေးမွေးမြူရ၏။ အမိ၏ နို့ရည်သည် သာသနာတော် ဝေါဟာရဖြင့် သွေးမည်၏။

ရဟန်းတို့၊ ထိုသူငယ်သည် ကိုယ်ကာယကြီးထွားခြင်း မျက်စိမြင် နားကြား စသည်တို့ ရင့်ကျက်ခြင်းကိုစွဲ၍ ထွန်ငယ်ဖြင့် ကစားခြင်း၊ ကျည်သားရိုက်ကစားခြင်းစသော ထိုထိုဤဤ ကလေးသူငယ်တို့၏ စားနည်းမျိုးတို့ဖြင့် ကစား၏။

ရဟန်းတို့၊ ထိုသူငယ်သည် ကြီးထွားခြင်းမျက်စိမြင် နားကြား စသည်တို့ရင့်ကျက်ခြင်းကို စွဲ၍ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်ကုန်သော၊ ချစ်အပ်သော သဘောရှိကုန်သော၊ ကာမရာဂနှင့် ဆက်သွယ်ကုန်သော၊ တပ်မက်ဖွယ် ကောင်းကုန်သော အဆင်း အသံ အနံ့ အရသာ အတွေ့ အထိ ဟူသော ကာမဂုဏ်ငါးပါးတို့ကို ခံစား၍ ပျော်ပါးလျက်ရှိ၏။

ထိုသူငယ်သည် မျက်စိဖြင့် အဆင်းကိုမြင်၍ ချစ်နှစ်သက်ဖွယ်သဘောရှိသော အဆင်း၌ တပ်မက်သောစိတ်ဖြစ်၏။ မချစ်မနှစ်သက်ဖွယ် သဘောရှိသော အဆင်း၌ ဒေါသစိတ်ဖြစ်၏။ သုံးဆယ်နှစ်ကောဋ္ဌာသ အစုအဝေးဟု သတိမထားဘဲ မကောင်းသောစိတ်ဖြစ်လျက်နေ၏။ ယုတ်ညံ့သော အကုသိုလ်တရားတို့မှ လွတ်မြောက်သောစိတ်နှင့် လွတ်မြောက်သောပညာကို အမှန်အတိုင်း ခွဲခြား၍မသိ။ နားဖြင့်အသံကိုကြား၍ နှာခေါင်းဖြင့် အနံ့ကိုနံ၍၊ လျှာဖြင့်အရသာကို လျက်၍ ကိုယ်ဖြင့် အတွေ့အထိကိုတွေ့ထိ၍၊ စိတ်ဖြင့် သဘာဝ ဓမ္မကိုသိ၍ ချစ်နှစ်သက်ဖွယ် သဘောရှိသောအသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ သဘာဝဓမ္မ၌ တပ်မက်သောစိတ်ဖြစ်၏။ မချစ်မနှစ်သက်ဖွယ်သဘောရှိသော အသံ၊ အနံ့၊ အရာသာ၊ အတွေ့ အထိ သဘာဝဓမ္မ၌ ဒေါသစိတ်ဖြစ်၏။ သုံးဆယ်နှစ်ကောဋ္ဌာသ အစုအဝေးဟု သတိမထားဘဲ မကောင်းသော စိတ်ဖြစ်လျက်နေ၏။ ယုတ်ညံ့သော အကုသိုလ်တရားတို့မှ လွတ်မြောက်သောစိတ်နှင့် လွတ်မြောက်သော ပညာကို အမှန်အတိုင်း ခွဲခြား၍ မသိ။

ထိုသူသည် ဤသို့ နှစ်သက်သော အာရုံနှင့်တွေ့လျှင် လိုက်လျောခြင်း၊ မနှစ်သက်သော အာရုံနှင့် တွေ့လျှင် ဆန့်ကျင်ခြင်းအားဖြင့် ချမ်းသာသောခံစားမှု ဆင်းရဲသောခံစားမှု၊ ဆင်းရဲချမ်းသာဟု မဆိုရသော ခံစားမှုကို ခံစား၏။ ယင်းခံစားမှုကိုလည်း နှစ်သက်၏။ အားပါးတရ ပြော၏။ ထိုခံစားမှုကို သူများနှင့်မဆိုင်သလို သက်ဝင်စွဲလမ်း၍ တည်၏။ ယင်းခံစားမှုကို နှစ်သက်ခြင်း၊ အားပါးတရပြောခြင်း၊ သက်ဝင်စွဲလမ်း၍ တည်ခြင်းကြောင့် ထိုသူအား ခံစားမှုတို့၌ နှစ်သက်ခြင်းသည် ဖြစ်၏။ ထိုသူအား စွဲလမ်းမှုဟူသော အကြောင်းကြောင့် ဖြစ်ခြင်းဟူသော ဘဝဖြစ်၍ ဘဝ၌ပထမဆုံး စဖြစ်မှုဟူသော ဇာတိနှင့် အိုခြင်းဇရာ၊ သေခြင်းမရဏ၊ ပူဆွေးခြင်း သောက၊ ငိုကြွေးခြင်း ပရိဒေဝ၊ ကိုယ်ဆင်းရဲခြင်း ဒုက္ခ၊ စိတ်ဆင်းရဲခြင်း ဒေါမနဿ၊ ပြင်းစွာပူပင်ခြင်း ဥပယာသ တို့သည် ဖြစ်ကုန်၏။ ဤသို့လျှင် ချမ်းသာမဖက် သက်သက်ဆင်းရဲချည်းဖြစ်သော ဒုက္ခစက်ကြီး ဖြစ်လေတော့၏။

မူလပဏ္ဏာသပါဠိတော်၊ ၄- ယမကဝဂ်၊
၈- မဟာတဏှာသင်္ခယသုတ်။

## ဘယ်လိုပြောပြော မေတ္တာမပျက်နှင့်

ရဟန်းတို့၊ သင်တို့ကို အခြားသူများက ပြောနိုင်သောစကားပြောပုံပြောနည်း ငါးမျိုးရှိ၏။

၁။ အခါမဟုတ်သည်ဖြစ်စေ၊ ဟုတ်သည်ဖြစ်စေ ပြောမည်။

၂။ ဟုတ်မှန်သောအားဖြင့် ဖြစ်စေ၊ မဟုတ်မှန်သောအားဖြင့် ဖြစ်စေ ပြောမည်။

၃။ သိမ်သိမ်မွေ့မွေ့ဖြစ်စေ၊ ကြမ်းကြမ်းတမ်းတမ်းဖြစ်စေ ပြောမည်။

၄။ အကျိုးသင့် အကြောင်းသင့်ဖြစ်စေ၊ အကျိုးသင့် မကြောင်းသင့်မဟုတ်ဘဲ ဖြစ်စေ ပြောမည်။

၅။ မေတ္တာစိတ်ဖြင့် ဖြစ်စေ၊ ဒေါသစိတ်ဖြင့် ဖြစ်စေ ပြောမည်။

ဤသို့ သင်တို့ကို အခြားသူများက ပြောနိုင်သော စကားပြောပုံပြောနည်း ငါးမျိုးရှိ၏။

ရဟန်းတို့၊ သင်တို့ကို ပြောဆိုသောသူတို့သည် အခါမဟုတ်သောအားဖြင့်သော်လည်း ပြောဆိုကုန်ရာ၏။ အခါမဟုတ်ဘဲသော်လည်း ပြောဆိုကုန်ရာ၏။ ဟုတ်မှန်သောအားဖြင့်သော်လည်း ပြောဆိုကုန်ရာ၏။ မဟုတ်မမှန်ဘဲသော်လည်း ပြောဆိုကုန်ရာ၏။ သိမ်မွေ့စွာဖြင့်သော်လည်း ဖြေဆိုကုန်ရာ၏။ ကြမ်းတမ်းစွာဖြင့်သော်လည်း ပြောဆိုကုန်ရာ၏။ အကျိုးသင့်အကြောင်းသင့်

အားဖြင့်လည်း ပြောဆိုကုန်ရာ၏။ အကျိုးသင့်အကြောင်းသင့် မဟုတ်ဘဲသော်လည်း ပြောဆိုကုန်ရာ၏။ မေတ္တာစိတ်ဖြင့်သော်လည်း ပြောဆိုကုန်ရာ၏။ ဒေါသစိတ်ဖြင့်သောလည်း ပြောဆိုကုန်ရာ၏။

ရဟန်းတို့၊ ထိုသို့ စကားပြောပုံပြောနည်း ငါးမျိုးဖြင့် ပြောဆိုလာရာ၌လည်း သင်တို့သည် ဤသို့ကျင့်သုံးရမည်၊ သူ ပြောဆိုချက်ကြောင့် ငါတို့သည် စိတ်တစ်မျိုးတစ်မည် မဖြစ်ကုန်အံ့၊ ယုတ်ညံ့သောစကားလည်း မမြွက်ဆိုကုန်အံ့၊ သူ့အကျိုးစီးပွားကို ငဲ့ညှာလျက် မေတ္တာစိတ်ထားကာ စိတ်မဆိုးဘဲ နေကြကုန်အံ့၊ ထိုပုဂ္ဂိုလ်အပေါ်၌လည်း မေတ္တာစိတ် ပို့လွှတ်၍ နေကုန်အံ့၊ ထိုပုဂ္ဂိုလ်ကို `မူ´ ထား၍ တလောကလုံးရှိ သတ္တဝါအားလုံးကို မေတ္တာစိတ်၏ အာရုံအဖြစ် ထားလျက် အပိုင်းအခြားမရှိ ကျယ်ပြန့်သော ရန်ငြိုးမဲ့ ဒုက္ခဖြစ်စေလိုမှုကင်းသော မေတ္တာစိတ်ဖြင့် ဖြန့်၍ နေကြကုန်အံ့ဟူ၍ ကျင့်သုံးရမည်။

မူလပဏ္ဏာသ၊ ၃- ဩပမ္မဝဂ်၊
၁- ကကစူပမသုတ်။



## မဖြစ်ချင်တာတွေ ဖြစ်နေတာ ဘာ့ကြောင့်

ရဟန်းတို့၊ များသောအားဖြင့် သတ္တဝါတို့သည် `အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့ ဆုတ်ယုတ်ကုန်မူ ကောင်းလေစွ၊ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သော တရားတို့ တိုးပွားကုန်မူ ကောင်းလေစွ´ ဟု ဤသို့ လိုလားကြကုန်၏။ ဤသို့ဖြစ်ချင်ကြကုန်၏။ ဤသို့ အလိုရှိကြကုန်၏။ ဤသို့ လိုလားနေကြကုန်လျက် ဤသို့ ဖြစ်စေချင်နေကြကုန်လျက် ဤသို့ အလိုရှိနေကြကုန်လျက် ထိုသတ္တဝါတို့အား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့က တိုးပွားနေကြကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သော တရားတို့က ဆုတ်ယုတ်နေကြကုန်၏။ ထိုသို့ဖြစ်ရာ၌ သင်တို့သည် အဘယ်အကြောင်းကို ယုံကြည်ကြကုန်သနည်း။

ဤသို့ မေးတော်မူပြီးလျှင် ရဟန်းတို့၏ တောင်းပန်ချက်ကြောင့် ဆက်၍ ဟောတော်မူသည်။

ရဟန်းတို့၊ ဤလောက၌ အရိယာသူတော်ကောင်းတို့ကိုလည်း မတွေ့ဘူး၊ အရိယာသူတော်ကောင်းတို့၏ တရား၌လည်း မလိမ္မာ မယဉ်ပါးသော တရားနှင့်စပ်လျဉ်း၍ အကြားအမြင် ဗဟုသုတမရှိသော ပုထုဇဉ်ပုဂ္ဂိုလ်သည် မှီဝဲအပ်သောတရား မမှီဝဲအပ်သော တရားတို့ကို မသိ၊ ချဉ်းကပ်အပ်သောတရား မချဉ်းကပ်အပ်သောတရားတို့ကို မသိ၊ ယင်းသို့ မသိသောကြောင့် မမှီဝဲအပ်သောတရားတို့ကို မှီဝဲ၏။ မှီဝဲအပ်သောတရားတို့ကို မမှီဝဲ၊ မချဉ်းကပ်အပ်သောတရားတို့ကို ချဉ်းကပ်၏၊ ချဉ်းကပ်အပ်သော တရားတို့ကို မချဉ်းကပ်၊ ဤသို့ မမှီဝဲအပ်သောတရားတို့ကို မှီဝဲ၍

မှီဝဲအပ်သော တရားတို့ကို မမှီဝဲသော၊ မချဉ်းကပ်အပ်သော တရားတို့ကို ချဉ်းကပ်၍ ချဉ်းကပ်အပ်သော တရားတို့ကို မချဉ်းကပ်သော ထိုသူအား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့သည် တိုးပွားကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သော တရားတို့သည် ဆုတ်ယုတ်ကုန်၏။ အဘယ့်ကြောင့် ဤသို့ဖြစ်ရသနည်းဆိုသော် မသိမလိမ္မာသော လူမိုက်တို့၏ ထုံးတမ်းအတိုင်း ဖြစ်ရမြဲ ဖြစ်သောကြောင့်တည်း။

ရဟန်းတို့၊ အကြားအမြင် ဗဟုသုတရှိသော အရိယာတပည့်သည်ကား မှီဝဲအပ်သောတရား မမှီဝဲအပ်သောတရားတို့ကို သိ၏။ ချဉ်းကပ်အပ်သောတရား မချဉ်းကပ်အပ်သောတရားတို့ကို သိ၏။ ဤသို့ သိသောကြောင့် မမှီဝဲအပ်သော တရားတို့ကို မမှီဝဲ၊ မှီဝဲအပ်သော တရားတို့ကို မှီဝဲ၏။ မချဉ်းကပ်အပ်သောတရားတို့ကို မချဉ်းကပ်၊ ချဉ်းကပ်အပ်သော တရားတို့ကို ချဉ်းကပ်၏။ ဤသို့ မမှီဝဲအပ်သော တရားတို့ကို မမှီဝဲဘဲ မှီဝဲအပ်သောတရားတို့ကို မှီဝဲသော၊ မချဉ်းကပ်အပ်သော တရားတို့ကို မချဉ်းကပ်ဘဲ ချဉ်းကပ်အပ်သောတရားတို့ကို ချဉ်းကပ်သော ထိုသူအား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့သည် ဆုတ်ယုတ်ကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သောတရားတို့သည် တိုးပွားကုန်၏။ အဘယ့်ကြောင့် ဤသို့ဖြစ်ရသနည်းဆိုသော် တတ်သိ လိမ္မာပညာရှိသူတို့၏ ထုံးတမ်းအတိုင်း ဖြစ်ရမြဲ ဖြစ်သော ကြောင့်တည်း။

ရဟန်းတို့၊ တရားကျင့် တည်ဆောက်တော်မူသည် -

၁။ ယခုဘဝလည်းဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့် ဆောက်တည်မှု၊

၂။ ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောင်တည်မှု၊

၃။ ယခုဘဝဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှု၊

၄။ ယခုဘဝ၌လည်းချမ်းသာ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှု -ဟူ၍ လေးမျိုးရှိ၏။

ရဟန်းတို့၊ ပညာမဲ့သော လူမိုက်သည် ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့် ဆောက်တည်မှုကို ‘ ဤတရားကျင့်ဆောက်တည်မှုသည် ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့် ဆောက်တည်မှုတည်း ’ ဟု ဟုတ်တိုင်းမှန်စွာ မသိ၊ ယင်းသို့မသိသောကြောင့် ထိုတရားကျင့် ဆောက်တည်မှုကို မှီဝဲ၏။ ထိုတရားကျင့် ဆောက်တည်မှုကို မရှောင်ကြဉ်၊ ထိုတရားကျင့် ဆောက်တည်မှုကို မှီဝဲသော မရှောင်ကြဉ်သော ထိုသူအား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သောတရားတို့သည် တိုးပွားကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သော တရားတို့သည် ဆုတ်ယုတ်ကုန်၏။

(ထို့အတူ) ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုကို `ဤတရားကျင့် ဆောက်တည်မှုသည် ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာ မသိ၊ ယင်းသို့ မသိသောကြောင့် ထိုတရားကျင့်ဆောက်တည်မှုကို မှီဝဲ၏။ မရှောင်ကြဉ်၊ ယခုဘဝ ဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသောတရားကျင့် ဆောက်တည်မှုကို `ဤတရားကျင့် ဆောက်တည်မှုသည် ယခုဘဝ ဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာ မသိ၊ ယင်းသို့ မသိသောကြောင့် ထိုတရားကျင့် ဆော်ကတည်မှုကို မမှီဝဲ၊ ရှောင်ကြဉ်၏။ ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်၌လည်း ချမ်းသာကျိုးရှိသော တရားကျင့်ဆောက်တည်မှုကို `ဤတရားကျင့်ဆောက်တည်မှုသည် ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်၌လည်း ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာ မသိ၊ ယင်းသို့ မသိသောကြောင့် ထိုတရားကျင့် ဆောက်တည်မှုကို မမှီဝဲ၊ ထိုတရားကျင့်ဆောက်တည်မှုကို ရှောင်ကြဉ်၏။ ထိုတရားကျင့် ဆောက်တည်မှုကို မမှီဝဲသော ရှောင်ကြဉ်သော ထိုသူအား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့သည် တိုးပွားကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သော တရားတို့သည် ဆုတ်ယုတ်ကုန်၏။ အဘယ့်ကြောင့် ဤသို့ဖြစ်ရသနည်းဆိုသော် မသိမလိမ္မာသော လူမိုက်တို့၏ ထုံးတမ်းအတိုင်း ဖြစ်ရမြဲ ဖြစ်သောကြောင့်တည်း။

ရဟန်းတို့၊ ပညာရှိသောသူသည် ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုကို `ဤတရားကျင့်ဆောက်တည်မှုသည် ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့် ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာသိ၏။ ယင်းသို့ သိသောကြောင့် ထိုတရားကျင့် ဆောက်တည်မှုကို မမှီဝဲ၊ ရှောင်ကြဉ်၏။ ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုကို `ဤတရားကျင့်ဆောက်တည်မှုသည် ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ ယင်းသို့ သိသောကြောင့် ထိုတရားကျင့်ဆောက်တည်မှုကို မမှီဝဲ။ ရှောင်ကြဉ်၏။ ယခုဘဝဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့်ဆောက်တည်မှုကို `ဤတရားကျင့် ဆောက်တည်မှုသည် ယခုဘဝဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာ သိ၏။ ယင်းသို့သိသောကြောင့် ထိုတရားကျင့် ဆော်ကတည်မှုကို မှီဝဲ၏။ မရှောင်ကြဉ်။ ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်၌လည်း ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှုကို `ဤတရားကျင့် ဆောက်တည်မှုသည် ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်၌လည်း ချမ်းသာကျိုးရှိသောတရားကျင့် ဆောက်တည်မှုတည်း´ ဟု ဟုတ်တိုင်းမှန်စွာသိ၏။ ယင်းသို့ သိသောကြောင့် ထိုတရားကျင့် ဆောက်တည်မှုကို မှီဝဲ၏။ မရှောင်ကြဉ်။ ထိုတရားကျင့် ဆောက်တည်မှုအား မှီဝဲသော

မရှောင်ကြဉ်သော ထိုသူအား အလိုမရှိအပ် မနှစ်သက်အပ် မမြတ်နိုးအပ်သော တရားတို့သည် ဆုတ်ယုတ်ကုန်၏။ အလိုရှိအပ် နှစ်သက်အပ် မြတ်နိုးအပ်သောတရားတို့သည် တိုးပွားကုန်၏။ အဘယ့်ကြောင့် ဤသို့ဖြစ်ရသနည်းဆိုသော် တတ်သိလိမ္မာပညာရှိသူတို့၏ ထုံးတမ်းအတိုင်း ဖြစ်ရမြဲ ဖြစ်သောကြောင့်တည်း။

၁။ ရဟန်းတို့၊ ဤလောက၌ အချို့သောသူသည် ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှု ကိုခံကာ သူ့အသက်ကို သတ်လေ့ရှိ၏။ သူ့ဥစ္စာကို ခိုးလေ့ရှိ၏။ ကာမတို့၌ မှားသောအကျင့်ကို ကျင့်လေ့ရှိ၏။ မုသားပြောလေ့ရှိ၏။ ကုန်းတိုက်လေ့ရှိ၏။ ရန့်ရင်းကြမ်းတမ်းသော စကားကို ပြောလေ့ရှိ၏။ အဆန်မဲ့သော စကားကို ပြောလေ့ရှိ၏။ သူတစ်ပါးစည်းစိမ်ကို ရှေ့ရှုကြံ၏။ သူတစ်ပါး ပျက်စီးရာပျက်စီးကြောင်း ကြံ၏။ မှားသော အယူကို ယူ၏။ သူ့အသက်သတ်ခြင်း စသည်ကြောင့် ကိုယ်ဆင်းရဲမှု၊ စိတ်ဆင်းရဲမှု ကိုခံစားရ၏။ ထိုသူသည် သေလွန်သောအခါ အပါယ်ငရဲသို့ ကျ၏။ ဤသည်ကို ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်ဘဝ၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှု -ဟု ဆိုအပ်၏။

၂။ ဤလောက၌ အချို့သောသူသည် ဝမ်းမြောက်ဝမ်းသာစိတ်ချမ်းသာစွာဖြင့် သူ့အသက်ကို သတ်လေ့ရှိ၏။ မှားသောအယူကို ယူ၏။ သူ့အသက် သတ်ခြင်းစသည်ကြောင့် ဝမ်းမြောက်မှု စိတ်ချမ်းသာမှုကို ခံစားရ၏။ ထိုသူသည် သေလွန်သောအခါ အပါယ်ငရဲသို့ ကျ၏။ ဤသည်ကို ယခုဘဝချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှု -ဟုဆိုအပ်၏။

၃။ ဤလောက၌ အချို့သောသူသည် ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှုကိုခံကာ သူ့အသက်သတ်ခြင်း၊ သူ့ဥစ္စာခိုးခြင်း၊ ကာမတို့၌ မှားသောအကျင့်ကို ကျင့်ခြင်း၊ မုသားပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ရန့်ရင်းကြမ်းတမ်းသောစကားကိုပြောခြင်း၊ အဆန်မဲ့စကားကို ပြောခြင်း၊ သူတစ်ပါး စည်းစိမ်ကို ရှေ့ရှုကြံခြင်း၊ သူတစ်ပါး ပျက်စီးရာပျက်စီးကြောင်း ကြံခြင်း၊ မှားသောအယူကို ယူခြင်း တို့မှရှောင်ကြဉ်၏။ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှုကို ခံစားရ၏။ ထိုသူသည် သေလွန်သောအခါ နတ်ရွာသုဂတိသို့ ရောက်၏။ ဤသည်ကို ယခုဘဝ ဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့်ဆောက်တည်မှု -ဟု ဆိုအပ်၏။

၄။ ဤလောက၌ အချို့သောသူသည် ဝမ်းမြောက်ဝမ်းသာ စိတ်ချမ်းသာစွာဖြင့် သူ့အသက် သတ်ခြင်း စသည်တို့မှ ရှောင်ကြဉ်၏။ သူ့အသက် သတ်ခြင်းစသည်တို့မှ ရှောင်ကြဉ်ခြင်းကြောင့် ဝမ်းမြောက်မှု ချမ်းသာမှုကိုခံစားရ၏။ ထိုသူသည် သေလွန်သောအခါ နတ်ရွာသုဂတိသို့ ရောက်ရ၏။ ဤသည်ကို ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်၌လည်း ချမ်းသာကျိုးရှိသော တရားကျင့် ဆောက်တည်မှု -ဟု ဆိုအပ်၏။

ရဟန်းတို့ ယခုဘဝလည်း ဆင်းရဲ၍ နောင်တမလွန်၌လည်း ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုသည် အဆိပ်နှင့်ရောထားသော ဘူးခါးရည်ကိုသောက်ရခြင်းနှင့် တူ၏။ အဆိပ်နှင့် ရောထားသော ဘူးခါးရည်ကို သောက်သောသူသည် သောက်နေဆဲ၌လည်း မကောင်းသော အနံ့အရသာကို ခံစားရ၏။ သောက်ပြီးသောအခါ၌လည်း သေခြင်းသို့လည်းကောင်း သေလောက်သော ဆင်းရဲသို့လည်းကောင်း ရောက်ရ၏။

ယခုဘဝ၌ ချမ်းသာ၍ နောင်တမလွန်၌ ဆင်းရဲကျိုးရှိသော တရားကျင့်ဆောက်တည်မှုသည် အဆိပ်နှင့်ရောထားသည့် ချိုမြိန်သော အဖျော်ယမကာကို သောက်ရခြင်းနှင့် တူ၏။ အဆိပ်ရောထားသည် ချိုမြိန်သော အဖျောယမကာကို သောက်သောသူသည် သောက်နေဆဲ၌ ကောင်းသောအနံ့အရာသာကို ခံစားရ၏။ သောက်ပြီးသောအခါ၌ သေခြင်းကိုလည်းကောင်း သေလောက်သော ဆင်းရဲသို့လည်းကောင်း ရောက်ရ၏။

ယခုဘဝဆင်းရဲ၍ နောင်တမလွန်၌ ချမ်းသာကျိုးရှိသော တရားကျင့်ဆောက်တည်မှုသည် ဆေးအမျိုးမျိုးနှင့် ရောထားသော နွားကျင်ငယ်ပုပ်ရည်ကို သောက်ရခြင်းနှင့်တူ၏။ အားနည်းဖျော့တော့သော ရောဂါရှိသောသူသည် ဆေးအမျိုးမျိုးနှင့်ရောထားသော နွားကျင်ငယ်ပုပ်ရည်ကို သောက်သောအခါ သောက်နေဆဲ၌ မကောင်းသောအနံ့ အရသာကို ခံစားရ၏။ သောက်ပြီးသောအခါ၌ကား ရောဂါပျောက်ကင်း၍ ချမ်းသာသူဖြစ်ရ၏။

ယခုဘဝလည်း ချမ်းသာ၍ နောင်တမလွန်လည်း ချမ်းသာကျိုးရှိသော တရားကျင့်ဆောက်တည်မှုသည် နို့ဓမ်း ပျားရည် ထောပတ် တင်လဲ တို့ကို ရောကျိုထားသော စတုမဓုဆေးကို စားရခြင်းနှင့်တူ၏။ သွေးသွန်သောရောဂါ ရှိသူသည် ထိုစတုမဓုကို စားလျှင် စားနေဆဲ၌လည်း အနံ့အရသာရှိ၍ နစ်သက်၏။ စားပြီးသောအခါ၌လည်း ရောဂါပျောက်ကင်း၍ ချမ်းသာခြင်းရှိသူဖြစ်ရ၏။

မူလပဏ္ဏာသ၊ ၅- စူဠယမကဝဂ်၊
၆- မဟာဓမ္မသမာဒါနသုတ်။

## ချစ်လို့ ငိုရတာ

မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် သူကြွယ်တစ်ယောက်သည် သူအလွန်ချစ်နေသည့် တစ်ယောက်တည်းသော သားကလေး သေဆုံးသွားသဖြင့် အလုပ်လည်း မလုပ်တော့ဘဲ၊ ထမင်းလည်း မစားတော့ဘဲ နေ့တိုင်း သုသာန်သို့သွား၍ ငိုကြွေးနေလေ၏။ ထိုသူကြွယ်သည် တစ်နေ့သောအခါတွင် မြတ်စွာဘုရားထံသို့ ဆည်းကပ်လာလေ၏။

မြတ်စွာဘုရားက - သူကြွယ်၊ သင်သည် ငေးကြောင်ကြောင်ဖြစ်နေပါတကား၊ သင်၏မျက်စိစသော ဣန္ဒြေတို့လည်း ဖောက်ပြန်နေပါတကားဟု ဆိုလေရာ ထိုသူကြွယ်က မြတ်စွာဘုရား၊ တပည့်တော်၏မျက်စိ စသောဣန္ဒြေတို့သည် အဘယ်မှာ မဖောက်ပြန်ဘဲ နေပါမည်နည်း၊ တပည့်တော်အလွန်ချစ်သည့် တစ်ယောက်တည်းသော သားသည် သေဆုံးသွားပါသည်။ သားသေသည့်အတွက် တပည့်တော် အလုပ် လုပ်ချင်စိတ်လည်းမရှိ၊ ထမင်းစားချင်စိတ်လည်းမရှိဘဲ သုသာန်သို့သွားပြီး ငိုကြွေးနေခဲ့ပါသည် ဘုရား- ဟု လျှောက်လေ၏။

မြတ်စွာဘုရားက - သူကြွယ်၊ သည်အပူမျိုးသည် သည်အတိုင်းပင်ဖြစ်သည်။ သူကြွယ်၊ ပူဆွေးငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာ ပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ကုန်၏။ ချစ်ခြင်းက စ၍ ဖြစ်လာ၏ - ဟု မိန့်တော်မူ၏။

ထိုသို့ မြတ်စွာဘုရား မိန့်ကြားတော် မူသောအခါ သူကြွယ်က- အရှင်ဘုရား၊ အဘယ်သူအား ဤသို့ ပူဆွေးငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း ပြင်းစွာ ပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့်ဖြစ်သည်။ ချစ်ခြင်းက စ၍ ဖြစ်လာသည် -ဟု ရှိလိမ့်မည်နည်း၊ နှစ်သက်ခြင်း ဝမ်းမြောက်ခြင်းတို့သာ ချစ်ခြင်းကြောင့် ဖြစ်ပေါ်ကုန်၏။ ချစ်ခြင်းကစ၍ ဖြစ်ပေါ်ကုန်၏- ဟု လျှောက်လေ၏။ ထိုသူကြွယ်သည် မြတ်စွာဘုရား၏စကားကို မနှစ်သက်ဘဲ ကန့်ကွက်ပြောဆိုပြီးလျှင် နေရာမှ ထသွားလေ၏။

ထိုအချိန်က မနီးမဝေးတွင် ဖဲကစားနေကြသော ကစားသမားများရှိနေကြ၏။ ထိုသူကြွယ်သည် မြတ်စွာဘုရားထံမှ ထွက်လာပြီး ထိုဖဲကစားသမားများထံသို့ သွား၍ မြတ်စွာဘုရားနှင့် သူပြောခဲ့သော စကားအားလုံးကို ပြောပြလေ၏။ ကစားသမားများက - သူကြွယ်၊ သင်ပြောသည့် အတိုင်းသာ မှန်သည်၊ နှစ်သက်ခြင်း ဝမ်းမြောက်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ပေါ်သည်၊ ချစ်ခြင်းကစ၍ ဖြစ်ပေါ်ကုန်သည်- ဟု ဆိုကြလေ၏။ ထိုအခါ သူကြွယ်သည် ငါ၏ဝါဒသည် ကစားသမားတို့၏ ဝါဒနှင့်ညီမျှ၏ - ဟု ဆိုကာ ပြန်သွားလေ၏။

ထိုစကား အကြောင်းအရာသည် တစ်ဆင့်စကားတစ်ဆင့်အားဖြင့် နန်းတော်တွင်းသို့ ရောက်သွားလေ၏။ ကောသလမင်းကြီးသည် ထိုအကြောင်းကို ကြား၍ မလ္လိကာဒေဝီအား- မလ္လိကာ၊ သင့်ဆရာ ရဟန်းဂေါတမက ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်သည်။ ချစ်ခြင်းကစ၍ ဖြစ်လာသည်- ဟု မိန့်ကြားသည်ဆိုပါကလား - ဟု ပြောလေ၏။ ထိုအခါ မလ္လိကာက- ဤစကားကို မြတ်စွာဘုရားမိန့်ကြားတော်မူသည် ဆိုလျှင် ဤအတိုင်းပင် မှန်ရမည်ဟု လျှောက်လေ၏။ မင်းကြီးက - ဆရာပြောသမျှ အမှန်ချည်းပဲဟု ဆိုကာ နှစ်သက်နေသည့်တပည့်ကဲ့သို့ပင် မလ္လိကာလည်း ရဟန်းဂေါတမပြောသည်ဆိုလျှင် ဤအတိုင်းမှန်သည်ဟူ၍ နှစ်သက်နေတော့သည်- ဟု ဆိုကာ မောင်းမဲ လွှတ်လိုက်လေ၏။

ထိုအခါ မလ္လိကာသည် နာဠိဇင်္ဃပုဏ္ဏားကို မြတ်စွာဘုရားထံ စေလွှတ်၍ ထိုစကားကို မြတ်စွာဘုရားပြောခြင်း ဟုတ်မဟုတ် သိရအောင် စုံစမ်းခိုင်းလိုက်လေ၏။ ထိုပုဏ္ဏားသည် မြတ်စွာဘုရားထံသို့ သွား၍မေးမြန်းလျှောက်ထားသောအခါ မြတ်စွာဘုရားက -

ပုဏ္ဏား၊ ဤအရာသည် ဤအတိုင်းပင် အမှန်ဖြစ်၏။ ပုဏ္ဏား၊ ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်းခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ကုန်၏။ ချစ်ခြင်းကစ၍ ဖြစ်လာကုန်၏။ ပုဏ္ဏား၊ ရှေးက သာဝတ္ထိပြည်၌ပင် မိန်းမတစ်ယောက်သည် သူ့မိခင်သေဆုံးသွားသဖြင့် အရူးသဖွယ်ဖြစ်ကာ လမ်းတကာသို့လျှောက်၍ ငိုကြွေးနေသည့်အဖြစ် ဖြစ်ခဲ့ဖူးသည်။ ဤမိန်းမဖြစ်ပုံကို ထောက်သဖြင့်လည်း ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ကုန်၏။ ချစ်ခြင်းကစ၍ ဖြစ်လာကုန်၏- ဟု သိသင့်သည်။

ပုဏ္ဏား၊ ဤသာဝတ္ထိပြည်၌ပင် မိန်းမတစ်ယောက်သည် သူ့ဖခင်သေဆုံးသဖြင့်၊ မိန်းမတစ်ယောက်သည် သူ့မောင် သေဆုံးသဖြင့်၊ မိန်းမတစ်ယောက်သည် သူ့ညီမသေဆုံးသဖြင့်၊ မိန်းမတစ်ယောက်သည် သူ့သမီးသေဆုံးသဖြင့်၊ မိန်းမတစ်ယောက်သည် သူ့လင်သေဆုံးသဖြင့်၊ အရူးသဖွယ်ဖြစ်ကာ လမ်းတကာသို့လျှောက်၍ ငိုကြွေးနေသည့်အဖြစ် ဖြစ်ခဲ့ဖူးသည်။ ဤအရာများကို ထောက်၍လည်း ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ကုန်၏။ ချစ်ခြင်းက စ၍ ဖြစ်လာကုန်၏ -ဟု သိသင့်သည်။

ပုဏ္ဏား၊ ဤသာဝတ္ထိပြည်၌ပင် မိန်းမတစ်ယောက်သည် သူ့လင်နှင့် အတူနေရာမှ မိဘအိမ်သို့ ခဏပြန်သွားစဉ် သူ့ကို မိဘများက လက်ရှိလင်နှင့် ခွဲပြီး အခြားယောကျ်ား တစ်ယောက်နှင့်ပေးစားရန် စီမံကြသည်။ ထိုမိန်းမကလည်း ထိုယောကျ်ားကိုမကြိုက်၊ ထိုမိန်းမသည် သူ့လင်အား ထိုအကြောင်းကို ပြောပြလေသည်။ ထိုအခါ လင်ယောကျ်ားဖြစ်သူသည် ငါတို့နှစ်ယောက်နောင်ဘဝမှာ ပေါင်းကြမည်ဆိုကာ ထိုမိန်းမကို နှစ်ပိုင်းပိုင်း၍ သတ်ပြီး သူ့ကိုသူလည်း သတ်သေလိုက်သည်။ ပုဏ္ဏား၊ ဤအဖြစ်အပျက်အားဖြင့်လည်း ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းတို့သည် ချစ်ခြင်းကြောင့် ဖြစ်ကုန်၏။ ချစ်ခြင်းကစ၍ ဖြစ်လာကုန်၏ - ဟု သိသင့်သည်။

နာဠိဇင်္ဃပုဏ္ဏားသည် မြတ်စွာဘုရားမိန့်ကြားတော်မူသမျှကို ကောင်းစွာမှတ်သားပြီး မလ္လိကာဒေဝီအား ပြန်၍ ပြောပြလေ၏။ ထိုအခါ မလ္လိကာဒေဝီသည် ကောသလမင်းကြီးထံသို့ သွားပြီးလျှင် - အရှင်မင်းကြီး၊ အရှင်မင်းကြီးသည် ဝဇိရီသတို့သမီးကို ချစ်သည်မဟုတ်ပါလော - ဟု မေးလေ၏။ မင်းကြီးက - မလ္လိကာ၊ မှန်၏။ ဝဇိရီသတို့သမီးကို ငါချစ်၏ ဟု ဆိုလေ၏။ မလ္လိကာက - အရှင်မင်းကြီး၊ ဝဇိရီသတို့သမီးသေဆုံးလျှင် ဖြစ်စေ၊ တစ်စုံတစ်ယောက်နှင့်ထွက်ပြေးလျှင်ဖြစ်စေ

အရှင်မင်းကြီးအား ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းတို့သည် ဖြစ်ကုန်ပါသလောဟု မေးလေ၏။ ကောသလမင်းကြီးက - မလ္လိကာ၊ ဝဇိရီသတို့သမီး သေဆုံးလျှင် ဖြစ်စေ၊ တစ်စုံတစ်ယောက်နှင့် ထွက်ပြေးလျှင်ဖြစ်စေ ငါအသက်သေမည်ကိုပင် စိုးရိမ်ရသည်။ ပူဆွေးခြင်း၊ ငိုကြွေးခြင်း စသည်တို့မှာ အဘယ်မှာ မဖြစ်ဘဲနေမည်နည်းဟု ဆိုလေ၏။

ထိုအခါ မလ္လိကာက- အရှင်မင်းကြီး၊ သိတော်မူ မြင်တော်မူသော မြတ်စွာဘုရားသည် ဤအချက်ကို ရည်ရွယ်၍ ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်းခြင်းတို့သည် ချစ်ခြင်းကြောင့်ဖြစ်ကုန်၏။ ချစ်ခြင်းကစ၍ ဖြစ်လာကုန်၏ - ဟု ဟောကြားတော်မူခြင်းဖြစ်သည်ဟု ဆိုလေ၏။

မဇ္ဈိမပဏ္ဏာသပါဠိတော်၊ ၄- ရာဇဝဂ်၊

၇- ဝိယဇာတိကသုတ်။

## ချစ်ခြင်းမှ လွတ်ကင်းလျှင်

ချစ်ခြင်းကြောင့် သောကဖြစ်ရ၏။ ချစ်ခြင်းကြောင့် ဘေးတွေ့ရ၏။ ချစ်ခြင်းမှ လွတ်ကင်းသောသူမှာ သောကဖြစ်ရတော့မည် မဟုတ်။ ဘေးတွေ့မှုကား အဘယ်မှာ ရှိတော့မည်နည်း။

ဓမ္မပဒ၊ ဝိယဝဂ်။

## သေဖို့ ဖန်တီးပေးနေသောတရား

ဇရာဟူသော အိုခြင်းတရားသည် အသက်ကို သေခြင်းဘက်သို့ ဆောင်ယူနေ၏။ သတ္တဝါတို့၏အသက်သည် နည်းငယ်တိုလျက် ခဏသာဖြစ်၏။ ဇရာတရားက သေဖို့ဘက်သို့ ဆောင်ယူခြင်းခံရသော သတ္တဝါအား အားကိုးမှီခိုစရာ ဘာမျှမရှိ၊ ငြိမ်းချမ်းရာ နိဗ္ဗာန်ကို အလိုရှိသောသူသည် သေခြင်းတရား၌ ထိုကြောက်ဖွယ်ဘေးသုံးမျိုးကို မြင်အောင်ကြည့်၍ လောက၌ တွယ်တာနေသည့် တရားစုကို ပယ်စွန့်ရာ၏။

သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊ ဒေဝတာသံယုတ်၊

၁- နဠဝဂ်၊ ၃- ဥပနီယသုတ်။

## ဘာ့ကြောင့် အိုရတာလဲ ဟု စဉ်းစားမိရဲ့လား

ရဟန်းတို့၊ စူးစမ်းဆင်ခြင်တတ်သောသူသည် `လောက၌ အထူးထူး အပြားပြား များလှစွာသော အိုခြင်းဇရာ သေခြင်းမရဏဟု ဆိုအပ်သော ဆင်းရဲဒုက္ခသည် ဖြစ်နေ၏။ ဤအိုခြင်းသေခြင်းဟူသော ဆင်းရဲသည် အဘယ်တရားလျှင် အကြောင်းရှိသနည်း။ အဘယ်တရားက (ဇရာမရဏ ကို) ဖြစ်ပေါ်စေသနည်း၊ အဘယ်တရားကစတင်၍ ဇရာမရဏ ဖြစ်လာသနည်း၊ အဘယ်တရားရှိလျှင် ဇရာမရဏမဖြစ်သနည်း´ ဟု စူးစမ်းဆင်ခြင်၏။ ထိုသို့စူးစမ်းဆင်ခြင်သည်ရှိသော် - ` လောက၌ အထူးထူးအပြားပြား များလှစွာသော အိုခြင်းဇရာ သေခြင်းမရဏဟု ဆိုအပ်သော ဆင်းရဲဒုက္ခသည် ပဋိသန္ဓေနေမှု ဟူသော ဇာတိလျှင် အကြောင်းရင်းရှိ၏။ ဇာတိတရားက ဇရာမရဏကို ဖြစ်ပေါ်စေ၏။ ဇာတိကြောင့် ဇရာမရဏဖြစ်လာ၏။ ဇာတိတရားက စတင်၍ ဇရာမရဏ ဖြစ်လာ၏။ ဇာတိတရားရှိလျှင် ဇရာမရဏ ဖြစ်၏။ ဇာတိတရားမရှိလျှင် ဇရာမရဏမဖြစ်´ ဟု သိ၏။

ထိုသူသည် အိုခြင်းဇရာ သေခြင်း မရဏ ဖြစ်ပေါ်ခြင်း၏အကြောင်းကိုလည်း သိ၏။ ဇရာမရဏ၏ချုပ်ငြိမ်းရာကိုလည်း သိ၏။ ဇရာမရဏ ချုပ်ငြိမ်းရာ (နိဗ္ဗာန်)သို့ ရောက်ရန် လျောက်ပတ်သောအကျင့်ကိုလည်း သိ၏။ သိသည့်အတိုင်းလည်း ကျင့်၏။ ရဟန်းတို့၊ ထိုပုဂ္ဂိုလ်ကို ဝဋ်ဆင်းရဲကုန်ရဖို့ ကောင်းစွာ ကျင့်သောသူဟု ဆိုအပ်၏။

နိဒါနသံယုတ်ပါဠိတော်၊ ၆- ဒုက္ခဝဂ်၊

၁- ပရိဝီမံသနသုတ်။

## အိုအောင် ကောင်းတာ ဘာလဲ

အဘယ်တရားသည် အိုသည်တိုင်အောင် ကောင်းပါသနည်း။ အဘယ်တရားသည် မိမိသန္တာန်၌ တည်လျှင် ကောင်းပါသနည်း။

အဘယ်အရာသည် လူတို့၏ ရတနာမည်သနည်း။

အဘယ်အရာကို ခိုးသူတို့ မခိုးယူနိုင်သနည်း။

ကိုယ်ကျင့်သီလသည် အိုသည်တိုင်အောင် ကောင်း၏။

ယုံကြည်မှု သဒ္ဓါတရားသည် မိမိသန္တာန်၌တည်လျှင် ကောင်း၏။

ပညာသည် လူတို့၏ ရတနာဖြစ်၏။

ကုသိုလ်ကောင်းမှုကို ခိုးယူသူတို့ မခိုးယူနိုင်။

သဂါထာဝဂ္ဂသံယုတ်၊ ၆- ဇရာဝဂ်၊

၁- ဇရာသုတ်။

## ဘဝတိုင်း မိတ်ဆွေ

ခရီးသွားသောသူ၏ မိတ်ဆွေကား အဘယ်သူနည်း။

အိမ်၌နေသောသူ၏ မိတ်ဆွေကား အဘယ်သူနည်း။

အလုပ်ကိစ္စ ဆောင်ရွက်နေသောသူ၏ မိတ်ဆွေကား အဘယ်သူနည်း။

တမလွန်ဘဝသွားရသောသူ၏ မိတ်ဆွေကား အဘယ်သူနည်း။

ခရီးသွားသောသူ၏ မိတ်ဆွေကား ခရီးသွားဖော်တည်း။

အိမ်၌နေသောသူ၏ မိတ်ဆွေကား မိခင်တည်း။

အလုပ်ကိစ္စဆောင်ရွက်သွားသောသူ၏ မိတ်ဆွေကား သူငယ်ချင်းတည်း။

တမလွန်ဘဝသွားရသောသူ၏ မိတ်ဆွေကား မိမိပြုထားသည့် ကောင်းမှုပင်တည်း။

သဂါထာဝဂ္ဂသံယုတ်၊ ၆- ဇရာဝဂ်၊

၃- မိတ္တသုတ်။

## လောကကြီးကို ဦးဆောင်နေတာ ဘယ်တရားလဲ

လောကကြီးကို အဘယ်တရားက ဆောင်နေသနည်း။

လောကကြီးကို အဘယ်တရားက ဆွဲငင်နေသနည်း။

လောကကြီးတစ်ခုလုံးသည် အဘယ်တရား၏ အလိုသို့ လိုက်ပါနေသနည်း။

လောကကြီးကို စိတ်တရားက ဆောင်နေသည်။

လောကကြီးကို စိတ်တရားက ဆွဲငင်နေသည်။

လောကကြီးတစ်ခုလုံးသည် စိတ်တရားတစ်ခုတည်း၏ အလိုသို့ လိုကပါနေသည်။

သံဂါထာဝဂ္ဂသံယုတ်၊ ၇- အဒ္ဓဝဂ်၊
၂- စိတ္တသုတ်။

## ကိုယ့်ကိုယ်ကိုယ် ချစ်လျှင်

မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ နေတော်မူစဉ် ကောသလ မင်းကြီးအား ဤသို့ဟောတော်မူ၏။

ဒကာတော်မင်းကြီး၊ အကြင်သူသည် ကိုယ်ဖြင့် မကောင်းသောအမှုကို ပြု၏။ နှုတ်ဖြင့် မကောင်းသော အမှုကိုပြု၏။ စိတ်ဖြင့် မကောင်းသောအမှုကို ပြု၏။ ထိုသူတို့သည် မိမိကိုယ်ကို မချစ်သေူသူတို့ဖြစ်၏။ ထိုသူတို့က - အကျွန်ုပ်တို့သ် ကိုယ့်ကိုယ်ကိုယ် ချစ်ပါသည် -ဟု ဆိုကြစေကာမူ အမှန်ကား ထိုသူတို့သည် မိမိကိုယ်ကိုယ် မချစ်သောသူတို့သာ ဖြစ်၏။ အဘယ့်ကြောင့်ဆိုသော မချစ်သောသူသည် မိမိမချစ်သောသူအတွက် ပြုလုပ်ရမည့်အမှုမျိုးကို (ထိုသူတို့သည်) မိမိအတွက် ကိုယ်တိုင်ပြုလုပ်နေသောကြောင့် ဖြစ်သည်။

ဒကာတော်မင်းကြီး၊ အကြင်သူတို့သည် ကိုယ်ဖြင့် ကောင်းသောအမှုကို ပြု၏။ နှုတ်ဖြင့် ကောင်းသောမှုကို ပြု၏။ စိတ်ဖြင့် ကောင်းသောအမှုကို ပြု၏။ ထိုသူတို့သည် မိမိကိုယ်ကို ချစ်သောသူတို့ဖြစ်၏။ ထိုသူတို့က - အကျွန်ုပ်တို့သည် ကိုယ့်ကိုယ်ကို မချစ်ပါဟု ဆိုကြစေကာမူ အမှန်ကား ထိုသူတို့သည် မိမိကိုယ်ကို ချစ်သောသူတို့သာဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် ချစ်သောသူသည် မိမိချစ်သောသူအတွက် ပြုလုပ်ရမည့်အမှုမျိုးကို (ထိုသူတို့သည်) မိမိအတွက် ကိုယ်တိုင်ပြုလုပ်နေသောကြောင့် ဖြစ်သည်။

မိမိကိုယ်ကို ချစ်အပ်၏ ဟုနားလည်လျှင် မိမိကိုယ်ကို မကောင်းမှုနှင့် မယှဉ်စေရာ။ မကောင်းမှုကို ပြုလုပ်လေ့ရှိသော သူသည် ချမ်းသာသုခကို ရဖို့ရန် ခဲယဉ်း၏။

သေမင်းနိုပ်စက်၍ လူ့ဘဝကိုစွန့်သွားရသောသူအတွက် သူ့ကိုယ်ပိုင်ဥစ္စာက အဘယ်နည်း၊ အဘယ်ဥစ္စာကို ယူဆောင်သွားရသနည်း။ အဘယ်အရာသည် သူသွားရာသို့ အရိပ်ပမာ ပါသွားသနည်း။ သေမင်းနိုပ်စက်၍ လူ့ဘဝကို စွန့်သွားရသောသူအတွက် သူ့ကိုယ်ပိုင်ဥစ္စာကား မသေခင်ကသူပြုခဲ့သည့် ကောင်းမှု မကောင်းမှုပင်တည်း။ ထိုကောင်းမှု မကောင်းမှုကို ယူဆောင်၍ သွားရ၏။ သူပြုခဲ့သည့် ကောင်းမှု မကောင်းမှုသည် သူသွားရာသို့ အရိပ်ပမာ ပါသွားလေ၏။

သဂါထာဝဂ္ဂသံယုတ်၊ ၃- ကောသလသံယုတ်၊
ပဌမဝဂ်၊ ၃- ပိယသုတ်။

## အောင်နိုင်ခဲသည့်စစ်ပွဲကို အောင်သူ

မြတ်စွာဘုရား ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးနေစဉ် အက္ကောသဘာရဒွါဇပုဏ္ဏားသည် သူ့အစ်ကိုပုဏ္ဏားက မြတ်စွာဘုရားထံ၌ ရဟန်းပြုသည်ဟု ကြားသဖြင့် စိတ်ဆိုး အမျက်ထွက်ကာ မြတ်စွာဘုရားထံသို့ လာပြီးလျှင် မဖွယ်မရာ ရှန့်ရင်းကြမ်းတမ်းသောစကားဖြင့် ဆဲရေးလေ၏။

မြတ်စွာဘုရားသည် အေးအေးဆေးဆေးပင် ပုဏ္ဏားအား မေးမြန်းပြောဆိုလေသည်။

`ပုဏ္ဏား၊ သင့်အိမ်သို့ ဆွေမျိုးမိသဂ်ဟဧည့်သည်များ လာဖူးသလား´

`တစ်ခါတစ်ရံ လာဖူးပါသည်´

`ထိုဧည့်သည်များကို ခဲဖွယ် ဘောဇဉ်များကျွေးမွေး ပေးကမ်းဖူးသလော´

`တစ်ခါတစ်ရံ ကျွေးမွေးဖူး ပေးကမ်းဖူးပါသည်´

`ထိုဧည့်သည်တို့က သင်ပေးသည်ကို မခံယူလျှင် ထိုပစ္စည်းတို့သည် ဘယ်သူ့ထံသို့ ရောက်သနည်း´

`ဧည့်သည်တို့က မခံယူလျှင် ထိုပစ္စည်းတို့သည် ကျွန်ုပ်ထံသို့ပင် ရောက်သည်´ ဟု လျှောက်လေ၏။

`ပုဏ္ဏား၊ ဤဥပမာအတူပင် သင်သည်မဆဲရေးထိုက်သော ငါတို့ကို ဆဲရေး၏။ သင်၏ဆဲရေးကို ငါတို့မခံယူကုန်။ ပုဏ္ဏား၊ ဤဆဲရေးခြင်းသည် သင့်အားသာရောက်၏။ ပုဏ္ဏား၊ အကြင်သူသည် မိမိအား ဆဲရေးသောသူကို ပြန်၍ ဆဲရေး၏။ မိမိအားရန်လိုသောသူကိုပြန်၍ ရန်လို၏။ ထိုသူသည် အတူခံစားသူပြုတုံ့ပြုသူဟူ၍ ဆိုအပ်၏။ ငါတို့သည် သင်နှင့်အတူ ခံစားဖက်မဟုတ်ကုန်။ ပြုတုံ့မပြုကုန်။ ပုဏ္ဏား၊ ဤသင်၏ဆဲရေးခြင်းသည် သင့်အားသာလျှင် ရောက်၏။´

"အကြင်သူသည် (မိမိအား) အမျက်ထွက်သူကို ပြန်၍ အမျက်ထွက်၏။ ထိုသူသည်သာ အမျက်ထွက်သူကိုပြန်၍ အမျက်ထွက်ခြင်းကြောင့် သာ၍ မိုက်ရာကျ၏။ မိမိအား အမျက်ထွက်သူကို ပြန်၍ အမျက်မထွက်သောသူသည် အောင်နိုင်ခဲသော စစ်ပွဲကို အောင်သည်မည်၏။ "

သဂါထာဝဂ္ဂသံယုတ်၊ ၇- ဗြဟ္မဏသံယုတ်၊

၁- အရဟန္တဝဂ်၊ ၂- အက္ကောသသုတ်။

## မတိုက်ဘဲနှင့် အောင်နိုင်သူ

မြတ်စွာဘုရား ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးနေစဉ် အက္ကောသသဘာရဒွါဇပုဏ္ဏားက သူ့အစ်ကို ရဟန်းပြုသည်ဟု ကြားသဖြင့် မြတ်စွာဘုရားထံလာ၍ ဆဲပြီးနောက် သူ၏ညီဖြစ်သူ အသုရိန္ဒကဘာရဒွါဇပုဏ္ဏားသည် မြတ်စွာဘုရားထံသို့ သွားပြီး မဖွယ်မရာ ရှန့်ရင်းကြမ်းတမ်းသော စကားတို့ဖြင့် ဆဲရေးပြန်သည်။ ယင်းသို့ ဆဲရေးသောအခါ မြတ်စွာဘုရားသည် တစ်စုံတစ်ရာ ဘာမှ ပြန်မပြောဘဲ ဆိတ်ဆိတ်နေလေ၏။

ထိုအခါ အသုရိန္ဒကပုဏ္ဏားက မြတ်စွာဘုရားအား -

`ရဟန်း၊ သင့်ကိုကျွန်ုပ်အောင်နိုင်ပြီ´ ဟုဆိုလေ၏။

ထိုအခါ မြတ်စွာဘုရားက -

`ပုဏ္ဏား၊ သူမိုက်သည် စကားအားဖြင့် ရှန့်ရင်းကြမ်းတမ်းစွာဆဲရေးပြောဆိုရသည်ကို ငါအောင်နိုင်သည်ဟု မှတ်ထင်လေ၏။ သည်းခံခြင်း၏အကျိုးကျေးဇူးကိုသိသော ပညာရှိပုဂ္ဂိုလ်၏ နှုတ်တုံ့မပြန်ဘဲ သည်းခံနေခြင်းသည်သာလျှင် အောင်နိုင်ခြင်းအစစ်ဖြစ်လေသည်။´

သဂါထာဝဂ္ဂသံယုတ်၊ ၇- ဗြာဟ္မဏသံယုတ်၊
၁- အရဟန္တဝဂ်၊ ၃- အသုရိန္ဒကသုတ်။

## သောတာပန်ဖြစ်လျှင် ငါးပါးသီလ မလွန်ကျူး

မြတ်စွာဘုရားသည် သာဝတ္ထိပြည်၌ သီတင်းသုံးနေတော်မူစဉ် အနာထပိဏ်သေဌေးအား ဤသို့ ဟောကြားတော်မူသည်။

သူကြွယ်၊ အကြင်အခါ၌ အရိယာဖြစ်သော တပည့်အား ငါးပါးသောဘေး ငါးပါးသော ရန်တို့သည် ငြိမ်းစေကုန်၏။ သောတာပန်ဖြစ်ပြီးသော ပုဂ္ဂိုလ်တို့ ပြည့်စုံရမည့် အင်္ဂါလေးပါးနှင့်လည်း ပြည့်စုံ၏။ ပဋိစ္စသမုပ္ပါဒ်တရားတို့ကိုလည်း ပညာဖြင့်ကောင်းစွာမြင်၏။ ထိုအရိယာတပည့်သည် အလိုရှိခဲ့သော် မိမိကိုယ်ကို မိမိ `ငါ့အား ငရဲ၌ကျရောက်မှု ကုန်ပြီ၊ တိရစ္ဆာန်ဖြစ်ရမှုကုန်ပြီ၊ ပြိတ္တာဖြစ်ရမှုကုန်ပြီ၊ မကောင်းသောလားရာ အပါယ်ဘုံသို့ ကျရောက်မှု ကုန်ပြီ၊ ငါသည် သောတာပန်ဖြစ်ပြီ။ အပါယ်သို့လားရာခြင်းသဘောမရှိတော့ပြီ။ သုဂတိဘဝသို့ လားရောက်ရန် သေချာနေပြီ၊ အထက်မဂ်သုံးပါးလျှင် လဲလျောင်းရာရှိတော့သည်´ ဟု ပြောဆိုနိုင်၏။

အဘယ် ငါးပါးသောဘေး၊ ငါးပါးသောရန်တို့ကုန်သနည်း။ သူကြွယ်၊ သူ့အသက်သတ်လေ့ရှိသော သူသည် သူ့အသက်သတ်ခြင်းဟူသောအကြောင်းကြောင့် မျက်မှောက်ဘဝ၌ဖြစ်သော ဘေးရန်လည်း ပွား၏။ တမလွန်ဘဝ၌ဖြစ်သော ဘေးရန်လည်းပွား၏။ စိတ်ဆင်းရဲခြင်း စိတ်နှလုံးမသာယာခြင်းကိုလည်း ခံစားရ၏။ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်သောသူအား ဤသို့သော ဘေးရန်သည် ငြိမ်း၏။

သူကြွယ်၊ သူ့ဥစ္စာကို ခိုးလေ့ရှိသောသူသည် သူ့ဥစ္စာခိုးခြင်းဟူသော အကြောင်းကြောင့်၊ ကာမတို့၌ မှားသောအားဖြင့် ကျင့်လေ့ရှိသောသူသည် ကာမတို့၌ မှားသောအားဖြင့်ကျင့်ခြင်းဟူသော အကြောင်းကြောင့်၊ မုသားပြောလေ့ရှိသောသူသည် မုသားပြောခြင်းဟူသောအကြောင်းကြောင့် သေအရက်ကို သောက်လေ့ရှိသောသူသည် သေအရက်သောက်ခြင်းဟူသော အကြောင်းကြောင့် မျက်မှောက်ဘဝ၌ဖြစ်သော ဘေးရန်လည်းပွား၏။ စိတ်ဆင်းရဲခြင်း စိတ်နှလုံးမသာမယာ ဖြစ်ခြင်းကိုလည်း ခံစားရ၏။ သူ့ဥစ္စာခိုးခြင်းမှ ရှောင်ကြဉ်သောသူအား၊ ကာမတို့၌ မှားသောအားဖြင့် ကျင့်ခြင်းမှရှောင်ကြဉ်သောသူအား၊ မုသားပြောခြင်းမှ ရှောင်ကြဉ်သောသူအား၊ သေအရက် သောက်ခြင်းမှ ရှောင်ကြဉ်သောသူအား ဤသို့သောအဘေးရန်သည် ငြိမ်း၏။ ဤငါးပါးသောဘေး ငါးပါးသောရန်တို့သည် ငြိမ်းကုန်၏။

အဘယ်အင်္ဂါလေးပါးနှင့်ပြည့်စုံသနည်း။

၁။ မြတ်စွာဘုရား၏ဂုဏ်တော်ကိုးပါးကို သိရှိကာ မြတ်စွာဘုရားကို မတုန်မလှုပ် သက်ဝင်ကြည်ညိုခြင်းနှင့်ပြည့်စုံ၏။

၂။ တရားတော်၏ဂုဏ်တော်ခြောက်ပါးကို သိရှိကာ တရားတော်ကို မတုန်မလှုပ် သက်ဝင်ညြည်ညိုခြင်းနှင့်ပြည့်စုံ၏။

၃။ သံဃာတော်၏ဂုဏ်တော်ကိုးပါးကို သိရှိကာ သံဃာတော်ကို မတုန်မလှုပ် သက်ဝင်ကြည်ညိုခြင်းနှင့်ပြည့်စုံ၏။

၄။ မကျိုးမပေါက် မပြောက်မကျား ကျင့်သုံးအပ်သည့် အရိယာတို့နှစ်သက်အပ်သော သီလနှင့် ပြည့်စုံ၏။

-ဤသို့ဆိုခဲ့သော သောတာပန်အင်္ဂါလေးပါးတို့နှင့်ပြည့်စုံ၏။

အဘယ်မည်သော ပဋိစ္စသမုပ္ပါဒ်တရားကိုပညာဖြင့် ကောင်းစွာမြင်သနည်း။

ဤအကြောင်းတရား ရှိလျှင် အကျိုးတရားဖြစ်၏။ ဤအကြောင်းတရားမရှိလျှင် ဤအကျိုးတရား မဖြစ်။ ဤအကြောင်းတရား ဖြစ်ခြင်းကြောင့် ဤအကျိုးတရား ဖြစ်၏။ ဤအကြောင်းတရား ချုပ်ခြင်းကြောင့် ဤအကျိုးတရားချုပ်၏။ မသိမှု အဝိဇ္ဇာဟူသော

အကြောင်းကြောင့် ပြုစီရင်မှုဟူသော သင်္ခါရဖြစ်၏။ ဤသို့စသည်ဖြင့် ပဋိသန္ဓေနေမှု ဇာတိဟူသော အကြောင်းကြောင့် အိုခြင်း ဇရာ၊ သေခြင်း မရဏ၊ ပူဆွေးခြင်း သောက၊ ငိုကြွေးခြင်း ပရိဒေဝ၊ ကိုယ်ဆင်းရဲခြင်း ဒုက္ခ၊ စိတ်ဆင်းရဲခြင်း ဒေါမနဿ၊ ပြင်းစွာပူပန်ခြင်း ဥပါယာသတို့သည် ဖြစ်ကုန်၏။ ဤသို့လျှင် အလုံးစုံသော ဒုက္ခအပေါင်းသည်ဖြစ်လေ၏။ အဝိဇ္ဇာချုပ်ငြိမ်းလျှင် သင်္ခါရ ချုပ်ငြိမ်း၏။ သင်္ခါရချုပ်ငြိမ်းလျှင် ဝိညာဉ် ချုပ်ငြိမ်း၏။ ဤသို့စသည်ဖြင့် ဇာတိချုပ်ငြိမ်းလျှင် အိုခြင်းသေခြင်း စသော ဒုက္ခတို့သည် ချုပ်ငြိမ်းကုန်၏။ ဤသို့လျှင် အလုံးစုံသော ဒုက္ခအပေါင်းသည် ချုပ်ငြိမ်းလေ၏။ ဤကား ထိုအရိယာတပည့် ပညာဖြင့်ကောင်းစွာမြင်အပ်သော ထိုထွင်း၍ သိအပ်သော ပဋိစ္စသမုပ္ပါဒ်တရားပေတည်း။

နိဒါနသံယုတ်၊ ၅- ဂဟပတိဝဂ်၊

၁- ပဉ္စဝေရဘယသုတ်။

## ဝေဒနာခံရတိုင်း ကံကြောင့် မထင်နှင့်

မြတ်စွာဘုရား ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးတော်မူနေစဉ် မောဠိယသီဝက အမည်ရှိသော ပရိဗိုဇ်သည် မြတ်စွာဘုရားထံ ချဉ်းကပ်၍ ဤသို့ မေးလျှောက်လေ၏။

`အရှင် ဂေါတမ၊ အချို့သော သမဏ ဗြာဟ္မဏတို့သည် လူတစ်ယောက်ခံစားရသော ချမ်းသာမှု ဆင်းရဲမှု ဆင်းရဲချမ်းသာမဟုတ်သည့် ခံစားမှုသည် ရှေးကပြုခဲ့သောကံကြောင့်- ဟုပြောဆိုကြပါသည်။ အယူရှိကြပါသည်။ ဤအရာ၌ အရှင်ဂေါတမကမည်သို့ ဆိုပါသနည်း။´

မြတ်စွာဘုရားက အောက်ပါအတိုင်း မိန့်ကြားတော်မူလေသည်။

`သီဝက၊ လောက၌ သည်းခြေလျှင် ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာတို့သည် ဖြစ်ကုန်၏။ ဝေဒနာခံစားရသူကိုယ်တိုင်ကလည်း "ဤဝေဒနာသည် သည်းခြေလျှင် ဖြစ်ကြောင်းရှိသော ဝေဒနာဖြစ်သည်" လောက၌ သည်းခြေလျှင် ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာတို့ဖြစ်ကြကုန် သကဲ့သို့ ဤဝေဒနာသည် သည်းခြေလျှင် ဖြစ်ကြောင်းရှိသော ဝေဒနာဖြစ်သည် ဆိုသော အကြောင်းကို သိနိုင်၏။ လူအများကလည်း (ထိုသူ၏အသားအရေကို မြင်သဖြင့်) လောက၌ သည်းခြေလျှင် ဖြစ်ကြောင်းရှိကုန်သောအချို့သော ဝေဒနာတို့သည် ဖြစ်ကြကုန်၏။ ထိုသူ၏ ဝေဒနာသည် သည်းခြေလျှင် ဖြစ်ကြောင်းရှိသော ဝေဒနာမှန်၏ - ဟု သမုတ်ကြကုန်၏´

ဤသို့သောအရာမျိုး၌ လူတစ်ယောက်ခံစားရသော ချမ်းသာမှု ဆင်းရဲမှု ဆင်းရဲချမ်းသာမဟုတ်သည့်ခံစားမှုသည် ရှေးကပြုခဲ့သော ကံကြောင့်ဟု ဆိုလေ့ရှိကုန်သော ယူလေ့ရှိကုန်သော သာမဏဗြာဟ္မဏတို့သည် ဝေဒနာခံစားရသူကိုယ်တိုင် သိအပ်သည်ကိုလည်း ကျော်လွန်ကုန်၏။ လောကလူအများက မှန်သည်ဟု သမုတ်ထားအပ်သည်ကိုလည်း ကျော်လွန်ကုန်၏။ သို့ဖြစ်၍ ထိုသမဏ ဗြာဟ္မဏတို့၏ စကားကို အမှားဟူ၍ ငါဆို၏။

`သီဝက၊ လောက၌ သလိပ်လျှင်ဖြစ်ကြောင်းရှိကုန်သော အချို့သောဝေဒနာ၊ လေလျှင်ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာ၊ သည်းခြေ သလိပ် လေ သုံးမျိုးပေါင်းလျှင် ဖြစ်ကြောင်းရှိကုန်သော ဝေဒနာ၊ ကံလျှင် ဖြစ်ကြောင်း ရှိကုန်သော အချို့သော ဝေဒနာတို့သည် ဖြစ်ကုန်၏။ ဝေဒနာခံစားရသူကိုယ်တိုင်ကလည်း လောက၌ သလိပ်လျှင် ဖြစ်ကြောင်းရှိကုန်သော အချို့သောဝေဒနာ၊ လေလျှင်ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာ၊ သည်းခြေ သလိပ် လေ သုံးမျိုးပေါင်းလျှင် ဖြစ်ကြောင်းရှိကုန်သော အချို့သောဝေဒနာ၊ ကံလျှင် ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာတို့သည် ဖြစ်ဖြစ်ကုန်သကဲ့သို့ ဤဝေဒနာသည် သလိပ်လျှင် ဖြစ်ကြောင်းရှိသော၊ လေလျှင် ဖြစ်ကြောင်းရှိသော၊ သည်းခြေ သလိပ် လေ သုံးမျိုးအပေါင်းလျှင် ဖြစ်ကြောင်းရှိသော၊ ကံလျှင် ဖြစ်ကြောင်းရှိသော ဝေဒနာဖြစ်သည်ဟု သိနိုင်၏။ လူအများကလည်း (ထိုသူ၏အသားအရေကို မြင်သဖြင့်) လောက၌ သလိပ်လျှင် ဖြစ်ကြောင်းရှိကုန်သော၊ လေလျှင် ဖြစ်ကြောင်းရှိကုန်သော၊ သည်းခြေ သလိပ် လေ သုံးမျိုးအပေါင်းလျှင် ဖြစ်ကြောင်းရှိကုန်သော၊ ကံလျှင်ဖြစ်ကြောင်းရှိကုန်သော အချို့သော ဝေဒနာတို့သည် ဖြစ်ကြကုန်သကဲ့သို့ ထိုသူ၏ဝေဒနာသည် သလိပ် လေ သည်းခြေ သုံးမျိုးအပေါင်း၊ ကံလျှင်ဖြစ်ကြောင်းရှိသော ဝေဒနာ မှန်၏ -ဟု သမုတ်ကြကုန်၏။

ဤသို့သောအရာမျိုး၌ လူတစ်ယောက်ခံစားရသော ချမ်းသာမှု ဆင်းရဲမှု ဆင်းရဲချမ်းသာ မဟုတ်သောခံစားမှုသည် ရှေးကပြုခဲ့သော ကံကြောင့်ဟုဆိုလေ့ရှိကုန်သော ယူလေ့ရှိကုန်သော သမဏဗြာဟ္မဏတို့သည် ဝေဒနာခံစားရသူကိုယ်တိုင် သိအပ်သည်ကိုလည်း ကျော်လွန်ကုန်၏။ လောကလူအများက မှန်သည်ဟု သမုတ်ထားအပ်သည်ကိုလည်း ကျော်လန်ကုန်၏။ လောကလူအများက မှန်သည်ဟု သမုတ်ထားအပ်သည်ကိုလည်း ကျော်လွန်ကုန်၏။ သို့ဖြစ်၍ ထိုသမဏဗြာဟ္မဏတို့၏ စကားကို အမှားဟူ၍ ငါဆို၏´

သဠာယတနသံယုတ်၊ ၃- အဋ္ဌသတပရိယာယဝဂ်၊

၁- သီဝကသုတ်။

## စိတ်သောကဖြစ်နေရတာ ဘာ့ကြောင့် ထင်သလဲ

မလ္လတိုင်း ဥရုဝေလကပ္ပရွာကြီး၌ မြတ်စွာဘုရား သီတင်းသုံးနေတော်မူစဉ် ဘဒြက အမည်ရှိသော ရွာသူကြီးသည် မြတ်စွာဘုရားထံ ချဉ်းကပ်၍ - မြတ်စွာဘုရား၊ တပည့်တော်အား ဆင်းရဲဒုက္ခကိုလည်းကောင်း၊ ဆင်းရဲဒုက္ခဖြစ်ခြင်း၏အကြောင်းကိုလည်းကောင်း၊ ဆင်းရဲဒုက္ခ ချုပ်ငြိမ်းခြင်းကိုလည်းကောင်း ဟောကြားတော်မူပါဘုရား - ဟု တောင်းပန်လေ၏။

ထိုအခါ မြတ်စွာဘုရားက ရွာသူကြီး ငါဘုရားက အကယ်၍ လွန်ခဲ့ပြီးသော အတိတ်ကာလ ဖြစ်ခဲ့ဖူးသည့် ဆင်းရဲဒုက္ခနှင့် ဆင်းရဲဒုက္ခဖြစ်ခြင်း၏ အကြောင်း၊ ဆင်းရဲဒုက္ခချုပ်ငြိမ်းခြင်းတို့ကို ဟောလျှင် သင်ယုံမှားသံသယဖြစ်နေမည်။ နောင်အနာဂတ်ကာလ၌ ဖြစ်ပေါ်မည့် ဆင်းရဲဒုက္ခနှင့် ဆင်းရဲဒုက္ခဖြစ်ခြင်း၏ အကြောင်း၊ ဆင်းရဲဒုက္ခချုပ်ငြိမ်းခြင်းတို့ကိုဟောလျှင်လည်း သင်ယုံမှားသံသယ ဖြစ်နေမည်။ သို့ဖြစ်၍ ယခုဤနေရာ၌ ထိုင်နေသော ငါဘုရားသည် ဤနေရာ၌ပင် ထိုင်နေသောသင့်အား ဆင်းရဲဒုက္ခကို လည်းကောင်း၊ ဆင်းရဲဒုက္ခဖြစ်ခြင်း၏ အကြောင်းကို လည်းကောင်း၊ ဆင်းရဲဒုက္ခချုပ်ငြိမ်းခြင်းကို လည်းကောင်း ဟောကြားတော်မူမည်။ ကောင်းစွာ နှလုံးသွင်း နားထောင်လော့။

ရွာသူကြီး၊ သင့်အဘယ်သို့ ထင်သနည်း။ ဤ ဥရုဝေလကပ္ပတွင် ထိုသူတို့ အသတ်ခံရသောကြောင့်ဖြစ်စေ၊ အချုပ်အနှောင်ခံရသောကြောင့်ဖြစ်စေ၊ ဆုံးရှုံးသောကြောင့်ဖြစ်စေ၊ အကဲ့ရဲ့ခံရသောကြောင့် ဖြစ်စေ သင်စိုးရိမ်ပူဆွေး စိတ်ဆင်းရဲဖြစ်ရသည့် သင်နှင့်စပ်သောသူများ ရှိသလော။

ရှိပါသည် ဘုရား။

ထိုသူတို့ အသတ်ခံရသောကြောင့် ဖြစ်စေ၊ အချုပ်အနှောင်ခံရသောကြောင့် ဖြစ်စေ၊ ဆုံးရှုံးသောကြောင့်ဖြစ်စေ၊ အကဲ့ရဲ့ခံရသောကြောင့်ဖြစ်စေ သင်စိုးရိမ်ပူဆွေးခြင်း၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲခြင်းမဖြစ်သည့် သင်နှင့် စပ်သောသူများလည်း ရှိသလော။

ရှိပါသည် ဘုရား။

ရွာသူကြီး၊ ဤဥရုဝေလကပ္ပရွာက အချို့လူတို့အသတ်ခံရသောကြောင့်၊ အချုပ်အနှောင် ခံရသောကြောင့်၊ ဆုံးရှုံးသောကြောင့်၊ အကဲ့ရဲ့ခံရသောကြောင့် သင်အဘယ်ကြောင့် စိုးရိမ်ပူဆွေး စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ ဖြစ်ရသနည်း။ ယင်းသို့ဖြစ်ခြင်းမှာ အဘယ်အကြောင်းကြောင့် ဖြစ်သနည်း။

ထိုအခါ ရွာသူကြီးက - ထိုသူတို့အပေါ်၌ တပည့်တော် ချစ်ခင်တွယ်တာမှု ရှိနေသောကြောင့် ဖြစ်ပါသည်ဘုရား - ဟုလျှောက်လေသည်။

အချို့လူတို့ အသတ်ခံရသောကြောင့်၊ အချုပ်အနှောင် ခံရသောကြောင့်၊ ဆုံးရှုံးသောကြောင့်၊ အကဲ့ရဲ့ခံရသောကြောင့် သင်အဘယ်ကြောင့် စိုးရိမ်ပူဆွေးခြင်း၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ မဖြစ်သနည်း။ ယင်းသို့ မဖြစ်ရခြင်းမှာ အဘယ့်အကြောင်းကြောင့်ဖြစ်သနည်း။

ထိုသူတို့အပေါ်၌ တပည့်တော် ချစ်ခင်တွယ်တာမှု မရှိသောကြောင့် ဖြစ်ပါသည်ဘုရား- ဟု ရွာသူကြီးက လျှောက်သည်။

ရွာသူကြီး၊ ယခုထိုင်နေရင်း သင် သိမြင် သဘောပေါက်လာသည့် နည်းတူပင် .. လွန်ခဲ့သော အတိတ်နှင့် လာလတ္တံ့သော အနာဂတ်၌လည်း နည်းတူ သိလော့။ လွန်ခဲ့ပြီးသော အတိတ်ကာလက ဖြစ်ခဲ့သမျှ ဒုက္ခအားလုံးသည် ချစ်ခင်မှု ဟူသောဆန္ဒလျှင် အကြောင်း ရင်းရှိ၏။ ချစ်ခင်မှု ဆန္ဒသည် ဒုက္ခ၏ အကြောင်းရင်းမူလဖြစ်၏။ နောင်လာမည့် အနာဂတ်ကာလ၌ ဖြစ်ပေါ်ကြမည့် ဒုက္ခအားလုံးသည်လည်း ချစ်ခင်မှုဟူသော ဆန္ဒလျှင် အကြောင်းရင်းရှိ၏။ ချစ်ခင်မှု ဆန္ဒသည် ဒုက္ခ၏ အကြောင်းရင်း မူလ ဖြစ်၏။

ထိုအခါ ရွာသူကြီးက၊ မြတ်စွာဘုရား၊ ဖြစ်သမျှသော ဆင်းရဲဒုက္ခအားလုံးသည် ချစ်ခင်မှုဆန္ဒလျှင် အကြောင်းရင်းမူလရှိ၏။ ချစ်ခင်မှုဆန္ဒလျှင် အကြောင်းရင်းမူလဖြစ်၏ ဆိုသော စကားသည် အလွန်မှန်လှပါ၏။ အံ့ဩလောက်အောင် မှန်ပါ၏။ မြတ်စွာဘုရား၊ စိရဝါသီ အမည်ရှိသော တပည့်တော်၏သားသည် မြို့ပြင်က အိမ်တွင်နေပါ၏။ တပည့်တော်သည် (နေ့တိုင်းပင်) စိရဝါသီ နေထိုင်ကောင်းပါရဲ့လားဟု လူလွှတ်အကြည့်ခိုင်းပါသည်။ သွားကြည့်သော သူမလာမချင်း စိရဝါသီအား တစ်စုံတစ်ရာ မကျမ်းမမာမဖြစ်ပါစေနှင့်ဟု စိတ်သောကဖြစ်နေရပါသည် ဘုရား -ဟု လျှောက်လေ၏။

မြတ်စွာဘုရားက ရွာသူကြီး၊ အဘယ်သို့ ထင်သနည်း၊ စိရဝါသီသတို့သား အသတ်ခံရလျှင် ဖြစ်စေ၊ အချုပ်အနှောင်ခံရလျှင်ဖြစ်စေ၊ ဆုံးရှုံးလျှင်ဖြစ်စေ၊ အကဲ့ရဲ့ခံရလျှင်ဖြစ်စေ သင့်အား စိုးရိမ်ပူဆွေးခြင်း၊ ကိုယ်ဆင်းရဲ စိတ်ဆင်းရဲခြင်းဖြစ်ရာသလော- ဟု မေးတော်မူ၏။

မြတ်စွာဘုရား၊ စိရဝါသီသတို့သားသာ တစ်စုံတစ်ခုဖြစ်လျှင် တပည့်တော်၏အသက်ပင် သေကောင်းသေရာ၏။ စိုးရိမ်ပူဆွေးခြင်း၊ ကိုယ်ဆင်းရဲ စိတ်ဆင်းရဲခြင်း အဘယ်မှာ မဖြစ်ဘဲ ရှိပါမည်နည်း ဘုရား။

ရွာသူကြီး၊ ဤအချက်ကိုထောက်သောအားဖြင့်လည်း ဖြစ်သမျှသောဒုက္ခအားလုံးသည် ချစ်ခင်ခြင်းဟူသော ဆန္ဒလျှင် အကြောင်းရင်းရှိ၏။ ချစ်ခင်ခြင်းဟူသောဆန္ဒသည် ဒုက္ခ၏ အကြောင်းရင်း ဖြစ်၏ ဟု သိထိုက်၏။

သဠာယတနသံယုတ်၊ ၈- ဂါမဏိသံယုတ်၊

၁၁- ဘဒြကသုတ်။

## ကောင်းရာသုဂတိလားပါစေဆိုတိုင်း လားရှော့သလား

မြတ်စွာဘုရား နာဠန္ဒမြို့၊ ပါဝါရိကသေဌေး၏ သရက်ဥယျာဉ်၌ သီတင်းသုံးနေတော်မူစဉ် အသိဗန္ဓကၡ၏သား ရွာသူကြီးသည် မြတ်စွာဘုရားထံ ချဉ်းကပ်၍ ဤသို့လျှောက်လေ၏။

`မြတ်စွာဘုရား၊ ပစ္ဆာဘူမိ၌ နေကြသည့် ကရားကိုကိုင်ဆောင်ကာ မှော်ပန်းကို အမြဲဆင်ထားကြကုန်သော ပုဏ္ဏားတို့သည် သေလွန်သောသူကို (ဝိုင်း၍ရပ်နေကြပြီး အချင်း၊ ပြဟ္မာ့ပြည်သို့သွားလော့။ အချင်း၊ ပြဟ္မာ့ပြည်သို့ သွားလော့ ဟုဆိုကာ) အထက်သို့ ရောက်စေနိုင်ကြကုန်၏။ နတ်ပြည်သို့ ပေးသွင်းနိုင်ကြကုန်၏။ မြတ်စွာဘုရားသည်ကား လူသတ္တဝါအားလုံးကို သေလွန်သောအခါ နတ်ပြည်သို့ ရောက်အောင် ပြုစွမ်းနိုင်ပါ၏လော။´

ထိုအခါ မြတ်စွာဘုရားက ဤသို့မိန့်တော်မူလေ၏။

`ရွာသူကြီး၊ ဤအရာ၌ သင့်ကိုယ်ပင်ပြန်၍မေးမည်။ သင်နှစ်သက်သလိုဖြေလော့။ ရွာသူကြီး၊ အဘယ်သို့ ထင်သနည်း။ ဤလောက၌ လူတစ်ယောက်သည် သူ့အသက်ကို သတ်လေ့ရှိ၏။ သူ့ဥစ္စာကို ခိုးလေ့ရှိ၏။ သူ့သားမယားကို ဖျက်ဆီးလေ့ရှိ၏။ မုသားပြောလေ့ရှိ၏။ သူတစ်ပါးစည်းစိမ်ကို ရှေ့ရှုကြံလေ့ရှိ၏။ သူတစ်ပါး ပျက်စီးရာပျက်စီးကြောင်း ကြံလေ့ရှိ၏။ မှားသောယူကို ယူ၏။ ထိုသူကို သေလွန်သောအခါ လူအများက ဝိုင်းပြီး "ဤသူသည် နတ်ရွာသုဂတိသို့ ရောက်ပါစေ။" ဟုရှိခိုးဆုတောင်းကြလျှင် ထိုသူသည် လူအများက ရှိခိုးဆုတောင်းပေးသည့် အတွက် နတ်ရွာသုဂတိသို့ ရောက်ရာသလော´

ဤသို့မေးသောအခါ ရွာသူကြီးက `လူအများက ဆုတောင်းပေးသည့်အတွက် နတ်ရွာသုဂတိသို့ ရောက်သည်ဆိုသည်မှာ မဖြစ်နိုင်ပါ´ ဟု ဖြေသည်။

`ရွာသူကြီး၊ ဥပမာအားဖြင့် ကျောက်တုံးကြီးတစ်ခုကို အလွန်နက်သော ရေအိုင်ထဲသို့ ပစ်ချပြီး လူပေါင်းများစွာ ဝိုင်းအုံ၍ လက်အုပ်ချီကာ ကျောက်တုံးကြီးပေါ်ပါလော့၊ ကျောက်တုံးကြီး ကမ်းပေါ်တက်ပါလော့ - ဟု ဆုတောင်းလျှင် ထိုကျောက်တုံးကြီးသည် လူအများက ရှိခိုးဆုတောင်းပေးသည့်အတွက် ပေါ်လာရာသလော၊ ကမ်းပေါ်သို့ တက်လာရာသလော´

`အရှင်ဘုရား၊ ဤသို့မဖြစ်နိုင်ပါ´

`ရွာသူကြီး၊ ဤဥပမာအတိုင်းပင် အကြင်သူသည် သူ့အသက်ကို သတ်လေ့ရှိ၏။ သူ့ဥစ္စာကို ခိုးလေ့ရှိ၏။ မှားသောအယူကို ယူ၏။ ထိုသူသည် သေလွန်သောအခါ အကယ်၍ လူအများကဝိုင်းပြီး ဤသူသည် နတ်ရွာသုဂတိသို့ ရောက်ပါစေ- ဟုရှိခိုးဆုတောင်းကြသော်လည်း အပါယ်ငရဲသို့သာ ကျ ရောက်ရာ၏။

ရှာသူကြီး၊ အဘယ်သို့ ထင်သနည်း။ ဤလောက၌ လူတစ်ယောက်သည် သူ့အသက်သတ်ခြင်းမှ ကင်း၏။ သူ့ဥစ္စာခိုးခြင်းမှ ကင်း၏။ သူ့သားမယားကို ဖျက်ဆီးခြင်းမှ ကင်း၏။ မုသားပြောခြင်း၊ ကုန်းတိုက်ခြင်း၊ ရုန့်ရင်းကြမ်းတမ်းသောစကားကို ဆိုခြင်း၊ အဆန်မဲ့စကားကို ပြောခြင်းမှ ကင်း၏။ သူတစ်ပါးစည်းစိမ်ကို ရေးရှုမကြံ၊ သူတစ်ပါး ပျက်စီးရာပျက်စီးကြောင်းမကြံ၊ မှန်သောအယူကို ယူ၏။ ထိုသူကို သေလွန်သောအခါ လူအများက ဝိုင်းပြီး ဤသူသည် ငရဲသို့ကျပါစေ ဟု ဆုတောင်းကြလျှင် ထိုသူသည် လူအများက ရှိခိုးဆုတောင်းကြသည့်အတွက် ငရဲသို့ ကျရောသလော´

`အရှင်ဘုရား၊ ဤသို့မဖြစ်နိုင်ပါ´

`ရှာသူကြီး၊ ဥပမာအားဖြင့် လူတစ်ယောက်သည် ထောပတ်အိုးကိုဖြစ်စေ၊ ဆီအိုးကိုဖြစ်စေ၊ အလွန်နက်သောရေထဲ၌ နစ်ပြီး ခွဲလိုက်လျှင် အိုးကွဲများက အောက်သို့ ကျသွားပြီး ထောပတ်များ၊ ဆီများက အပေါ်သို့ တက်လာရာ၏။ ထိုထောပတ်တို့ အဆီတို့ကို လူအများက ဝိုင်းပြီး ဤထောပတ်များ ဤဆီများသည် ရေထဲသို့ နစ်မြုပ်သွားကြပါစေဟု ရှိခိုးဆုတောင်းလျှင် ထိုထောပတ်များ ဆီများသည် လူအများက ရှိခိုးဆုတောင်းကြသည့်အတွက် ရေထဲသို့ နစ်မြုပ်သွားရာသလော ´

`အရှင်ဘုရား၊ ဤသို့ မဖြစ်နိုင်ပါ´

`ရှာသူကြီး၊ ဤဥပမာ အတိုင်းပင် အကြင်သူသည် သူ့အသက်သတ်ခြင်းမှ ကင်း၏။ သူ့ဥစ္စာခိုးခြင်းမှ ကင်း၏။ မှန်သောအယူကို ယူ၏။ ထိုသူသည် သေလွန်သောအခါ အကယ်၍ လူအများက ဝိုင်းပြီး ဤသူသည် အပါယ်ငရဲသို့ကျပါစေဟု ရှိခိုးဆုတောင်းကြသော်လည်း ထိုသူသည် နတ်ရွာသုဂတိသို့သာ ရောက်ရာ၏။ ´

သဠာယတနသံယုတ်၊ ဂါမဏိသံယုတ်၊
၆- အသိဗန္ဓကပုတ္တသုတ်။

## ရေးကလိုမစည်ကားတာ ဘာ့ကြောင့်

အခါတစ်ပါး၌ ပုဏ္ဏားသူကြွယ်ကြီး တစ်ယောက်က မြတ်စွာဘုရားအား ဤသို့ မေးလျှောက်လေ၏။

`အရှင်ဂေါတမ၊ ရှေးအခါက ဤလူ့ပြည်လောကသည် လူတို့ဖြင့် ပြည့်ကျပ်နေသည်။ ရွာကြီး ရွာငယ် မင်းနေပြည်တို့သည်လည်း တစ်ရွာနှင့်တစ်ရွာ ဆက်လုမတက် ကြက်ပျံ တကျလောက်သာ ရှိသည်ဟု ရှေးခေတ်မီသည့် သက်ကြီးရွယ်ရင့် ဆရာစဉ်ဆက်တို့ပြောကြသည်ကို

ကျွန်ပ်ကြားဖူးပါသည်။ ယခုအခါ၌ကား လူများနည်းပါးနေပြီ၊ ကျိုးတိုးကျဲတဲဖြစ်နေပြီ၊ ရှေးကရွာများလည်း ယခုရွာမဟုတ်တော့ပြီ၊ ရှေးနိဂုံးများလည်း ယခုနိဂုံးမဟုတ်တော့ပြီ၊ ရှေးကမြို့များလည်း ယခုမြို့ မဟုတ်တော့ပြီ၊ ဤသို့ဖြစ်ရခြင်း၏အကြောင်းကား အဘယ်ပါနည်း´

ထိုအခါမြတ်စွာဘုရားက အောက်ပါအတိုင်း မိန့်ကြားတော်မူလေ၏။

`ပုဏ္ဏား၊ ယခုအခါလူတို့သည် မတော်လောဘဟူသော အဓမ္မရာဂဖြင့် တပ်မက်ကြကုန်၏။ မတရားလောဘတည်း ဟူသော ဝိသမလောဘဖြင့် နှိပ်စက်အပ်ကုန်၏။ မှောက်မှားသော အကျင့်ဟူသော မိစ္ဆာဓမ္မနှင့် ပြည့်နှက်နေ၏။ ထိုသူတို့သည် မတော်လောဘဖြင့် တပ်မက်၊ မတရားလောဘဖြင့် နှိပ်စက်၊ မှောက်မှားသောအကျင့်နှင့် ပြည့်နှက်နေကြပြီဖြစ်၍ လက်နက်စွဲကိုင်ကြကာ အချင်းချင်း သတ်ဖြတ်နေကြကုန်၏။ (သတ္တန္တရကပ်ကြီးဆိုက်၏) ထို့ကြောင့် လူပေါင်းများစွာတို့သည် သေကျေပျက်စီးကြကုန်၏။ ယခုအခါ လူဦးရေနည်းပါး၊ မြို့ရွာများ ပျက်စီး ကွယ်ပျောက်ကုန်ခြင်းမှာ ဤအကြောင်းလည်း တစ်ပါးပါဝင်၏။

ပုဏ္ဏား၊ ယခုအခါ၌ လူတို့သည် မတော်လောဘဟူသော အဓမ္မရာဂဖြင့် တပ်မက်ကုန်၏။ မတရားလောဘတည်းဟူသော ဝိသမလောဘဖြင့် နှိပ်စက်အပ်၏။ မှောက်မှားသော အကျင့်ဟူသော မိစ္ဆာဓမ္မနှင့် ပြည့်နှက်နေ၏။ မတော်လောဘဖြင့် တပ်မက်၊ မတရားလောဘဖြင့် နှိပ်စက် မှောက်မှားသော အကျင့်နှင့် ပြည့်နှက်ကုန်သော ထိုလူတို့အား မိုးသည်လုံလောက်အောင် ရွာမပေးချေ၊ မိုးမကောင်းသဖြင့် ငတ်မွတ်ခေါင်းပါးဘေးကြီး ဖြစ်လာ၏။ (ဒုဗ္ဘိက္ခန္တရ ကပ်ကြီးဆိုက်၏) ထို့ကြောင့်လူပေါင်းများစွာတို့သည် သေကျေပျက်စီးကြကုန်၏။ ယခုအခါ လူဦးရေနည်းပါး၊ မြို့ရွာများ ပျက်စီး ကွယ်ပျောက်ကုန်ခြင်းမှာ ဤအကြောင်းလည်း တစ်ပါး ပါဝင်၏။

ပုဏ္ဏား၊ ယခုအခါ၌ လူတို့သည် မတော်လောဘဟူသော အဓမ္မရာဂဖြင့် တပ်မက်ကြကုန်၏။ မတရားလောဘတည်းဟူသော ဝိသမလောဖြင့် နှိပ်စက်အပ်ကုန်၏။ မှောက်မှားသော အကျင့်ဟူသော မိစ္ဆာဓမ္မနှင့် ပြည့်နှက်နေ၏။ မတော်လောဘဖြင့် တပ်မက်၊ မတရားလောဘဖြင့် နှိပ်စက်၊ မှောက်မှားသော အကျင့်နှင့် ပြည့်နှက်နေသော ထိုလူတို့အား အကြီးအကဲဖြစ်ကုန်သော ဘီလူးကြီးတို့က ကြမ်းတမ်းသောဘီလူးဆိုးတို့ကို လွှတ်ပေးကုန်၏။ (ထိုဘီလူးတို့က လူတို့ကို ဖမ်းစားကုန်၏။ ရောဂါဆိုးတို့ဖြစ်ကုန်၏။ ရောဂန္တရကပ်ကြီး ဆိုက်၏။) ထို့ကြောင့် လူပေါင်းများစွာတို့သည် သေကျေပျက်စီးကြကုန်၏။ ယခုအခါ လူဦးရေနည်းပါး၊ မြို့ရွာများပျက်စီး ကွယ်ပျောက်ကုန်ခြင်းမှာ ဤအကြောင်းလည်း တစ်ပါး ပါဝင်၏။

တိကအင်္ဂုတ္တိုရ်၊ ဒုပဏ္ဏာသက၊
၁- ဖြဟ္မဏဝဂ်၊ ၆- ပလောကသုတ်။

## မိဘဆိုတာ ဘုရားနှင့် တစ်ဂိုဏ်းတည်း

ရဟန်းတို့၊ ပုဂ္ဂိုလ်လေးမျိုးတို့၌ ဖြစ်မှားသော မိုက်မဲမလိမ္မာသည့်သူယုတ်သည် ဂုဏ်ကို တူးဖြိုဖျက်ဆီးထားသဖြင့် ဂုဏ်မဲ့ဖြစ်သော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူမည်၏။ အပြစ်ရှိသူလည်း ဖြစ်၏။ ပညာရှိတို့ ကဲ့ရဲ့စွပ်စွဲထိုက်သူလည်း ဖြစ်၏။ များစွာသော မကောင်းမှု တို့ကိုလည်း တိုးပွားစေ၏။

အဘယ်ပုဂ္ဂိုလ် လေးမျိုးတို့နည်း ဟူမူ -

ရဟန်းတို့၊ အမိ၌ ဖြစ်မှားသော မိုက်မဲမလိမ္မာသည့် သူယုတ်သည် ဂုဏ်ကို တူးဖြိုဖျက်ဆီးထား သဖြင့် ဂုဏ်မဲ့ဖြစ်နေသော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူမည်၏။ အပြစ်ရှိသူလည်း ဖြစ်၏။ ပညာရှိတို့ ကဲ့ရဲ့စွပ်စွဲထိုက်သူလည်း ဖြစ်၏။ များစွာသော မကောင်းမှုတို့ကိုလည်း တိုးပွားစေ၏။ အဖ၌ ဖြစ်မှားသော၊ မြတ်စွာဘုရား၌ ဖြစ်မှားသော၊ မြတ်စွာဘုရား၏ တပည့်သာဝက၌ ဖြစ်မှားသော မိုက်မဲ မလိမ္မာသည့် သူယုတ်သည် ဂုဏ်ကို တူးဖြိုဖျက်ဆီး ထားသဖြင့် ဂုဏ်မဲ့ဖြစ်နေသော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူမည်၏။ အပြစ်ရှိသူလည်းဖြစ်၏။ ပညာရှိတို့ ကဲ့ရဲ့စွပ်စွဲထိုက်သူလည်းဖြစ်၏။ များစွာသော မကောင်းမှု ကိုလည်း တိုးပွားစေ၏။

ရဟန်းတို့၊ ပုဂ္ဂိုလ်လေးမျိုးတို့၌ ဖြစ်မှားသော မိုက်မဲမလိမ္မာသည့် သူယုတ်သည် ဂုဏ်ကို တူးဖြိုဖျက်ဆီးထားသဖြင့် ဂုဏ်မဲ့ဖြစ်နေသော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူမည်၏။ အပြစ်ရှိသူလည်း ဖြစ်၏။ ပညာရှိတို့ ကဲ့ရဲ့စွပ်စွဲထိုက်သူလည်း ဖြစ်၏။ များစွာသော မကောင်းမှုတို့ ကိုလည်း တိုးပွားစေ၏။

ရဟန်းတို့၊ ပုဂ္ဂိုလ်လေးမျိုးတို့၌ ကောင်းစွာကျင့်သော ပညာရှိလူလိမ္မာ သူတော်ကောင်း ပုဂ္ဂိုလ်သည် ဂုဏ်ကို မတူးဖြို မဖျက်ဆီးသဖြင့် ဂုဏ်ရှိနေသော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူ မည်၏။ အပြစ်မရှိသူလည်း ဖြစ်၏။ ပညာရှိတို့ မကဲ့ရဲ့ မစွပ်စွဲထိုက်သူလည်း ဖြစ်၏။ များစွာသော ကောင်းမှုကိုလည်း တိုးပွားစေ၏။

အဘယ်ပုဂ္ဂိုလ် လေးမျိုးတို့နည်း ဟူမူ- အမိ၌ ကောင်းစွာကျင့်သော၊ အဖ၌ ကောင်းစွာကျင့်သော၊ မြတ်စွာဘုရား၌ ကောင်းစွာကျင့်သော၊ မြတ်စွာဘုရား၏တပည့်သာဝက၌ ကောင်းစွာကျင့်သော ပညာရှိလူလိမ္မာ သူတော်ကောင်းပုဂ္ဂိုလ်သည် ဂုဏ်ကို မတူးဖြို မဖျက်ဆီးသဖြင့် ဂုဏ်ရှိသော မိမိကိုယ်ကို အလုပ်အကျွေးပြုနေသူ မည်၏။ အပြစ်မရှိသူလည်း ဖြစ်၏။ ပညာရှိတို့ မကဲ့ရဲ့ မစွပ်စွဲထိုက်သူလည်း ဖြစ်၏။ များစွာသော ကောင်းမှုကိုလည်း တိုးပွားစေ၏။

ရဟန်းတို့၊ ဤပုဂ္ဂိုလ်လေးမျိုးတို့၌ ကောင်းစွာကျင့်သော ပညာရှိလူလိမ္မာ သူတော်ကောင်း ပုဂ္ဂိုလ်သည် ဂုဏ်ကို မတူးဖြို မဖျက်ဆီးသဖြင့် ဂုဏ်ရှိနေသောမိမိကိုယ်ကို အလုပ်အကျွေး

ပြုနေသူမည်၏။ အပြစ်မရှိသူလည်း ဖြစ်၏။ ပညာရှိသူတို့ မကဲ့ရဲ့ မစွပ်စွဲ ထိုက်သူလည်း ဖြစ်၏။ များစွာသော ကောင်းမှုကိုလည်း တိုးပွားစေ၏။

စတုကအင်္ဂုတ္တိုရ်၊ ၁- ဘဏ္ဍာဂါမဝဂ်၊

၄- ဒုတိယ ခတသုတ်။

## ကိုယ်တိုင်သိတရား

တစ်ခါက ပုဏ္ဏားပရိဗိုဇ်တစ်ယောက်သည် မြတ်စွာဘုရားထံ ဤသို့ချဉ်းကပ်၍ ဤသို့ မေးလျှောက်လေ၏။

`အရှင်ဂေါတမ၊ ကိုယ်တိုင်သိသောတရား၊ ကိုယ်တိုင်သိသောတရားဟု ဆိုပါသည်။ အဘယ်မျှဖြင့် တရားသည် ကိုယ်တိုင်သိဖြစ်ပါသနည်း၊ အခါမလင့် အကျိုးပေးပါသနည်း၊ လာ - ဒီမှုကြည့်ဟု ပြောနိုင်လောက်အောင် ဖြစ်ပါသနည်း၊ မိမိစိတ်ထဲ၌ စွဲမြဲစွာဆောင်ယူ ထားထိုက်ပါသနည်း။ အရိယာပညာရှိတို့ ကိုယ်စီကိုယ်င သိရှိခံစားအပ်ပါသနည်း၊ ထိုသို့ မေးလျှောက်သောအခါ မြတ်စွာဘုရားက အောက်ပါအတိုင်း မိန့်ကြားတော်မူလေ၏။

`ပုဏ္ဏား၊ တပ်မက်မှု ရာဂတရားဖြင့် နှိပ်စက်ဖမ်းစားခြင်းခံရသောသူသည် မိမိဆင်းရဲရန် အတွက်လည်းကြံ၏။ သူတစ်ပါး ဆင်းရဲရန်အတွက်လည်း ကြံ၏။ မိမိသူတစ်ပါး နှစ်ဦးလုံး ဆင်းရဲရန်အတွက်လည်းကြံ၏။ စိတ်ဆင်းရဲခြင်း၊ စိတ်နှလုံးမသာယာခြင်းကိုလည်း ခံစားရ၏။ ရာဂကို ပယ်ခွာလိုက်သည်ရှိသော် မိမိဆင်းရဲရန်အတွက်လည်း မကြံစည်၊ သူတစ်ပါး ဆင်းရဲရန် အတွက်လည်း မကြံစည်၊ မိမိသူတစ်ပါး နှစ်လုံးစလုံး ဆင်းရဲရန်အတွက်လည်း မကြံစည်၊ စိတ်ဆင်းရဲခြင်း၊ စိတ်နှလုံးမသာယာခြင်း ကိုလည်း မခံစားရ။

ပုဏ္ဏား၊ တပ်မက်မှုရာဂတရားဖြင့် နှိပ်စက်ဖမ်းစားခြင်းခံရသောသူသည် ကိုယ်ဖြင့်လည်း မကောင်းမှုကိုပြု၏။ နှုတ်ဖြင့်လည်း မကောင်းမှုကို ပြု၏။ စိတ်ဖြင့်လည်း မကောင်းမှုကို ပြု၏။ ရာဂကို ပယ်ခွာလိုက်သည်ရှိသော် ကိုယ်ဖြင့်လည်း မကောင်းမှုကို မပြု၊ နှုတ်ဖြင့်လည်းမကောင်းမှုကို မပြု၊ စိတ်ဖြင့်လည်း မကောင်းမှုကို မပြု။

ပုဏ္ဏား၊ တပ်မက်မှု ရာဂတရားဖြင့် နှိပ်စက်ဖမ်းစားခြင်း ခံရသောသူသည် မိမိ အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာမသိ၊ သူတစ်ပါးအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ မသိ၊ မိမိသူတစ်ပါး နှစ်ဦးလုံး၏အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာမသိ၊ ရာဂကိုပယ်ခွာလိုက်သည်ရှိသော် မိမိအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။ သူတစ်ပါးအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။ မိမိသူတစ်ပါး နှစ်ဦးလုံး၏ အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။

ပုဏ္ဏား၊ ဤသို့လျှင် တရားသည် ကိုယ်တိုင်သိဖြစ်၏။ အခါမလင့်အကျိုးပေး၏။ လာ - ဒီမှာကြည့်ဟု ပြနိုင်၏။ မိမိစိတ်ထဲ၌ စွဲမြဲစွာ ဆောင်ယူထားထိုက်၏။ အရိယာပညာရှိတို့ ကိုယ်စီကိုယ်င သိရှိခံစားအပ်၏။

ပုဏ္ဏား၊ အမျက်ထွက်မှု ဒေါသတရား၊ တွေဝေမှု မောဟတရားဖြင့် နှိပ်စက်ဖမ်းစားခြင်းခံရသော သူသည် မိမိဆင်းရဲရန်အတွက်လည်း ကြံ၏။ မိမိသူတစ်ပါး နှစ်ဦးလုံး ဆင်းရဲရန်အတွက်လည်း ကြံ၏။ စိတ်ဆင်းရဲခြင်း၊ စိတ်နှလုံးမသာယာခြင်းကိုလည်း ခံစားရ၏။ ဒေါသကို ပယ်ခွာလိုက်သည်ရှိသော် မောဟကို ပယ်ခွာလိုက်သည်ရှိသော် မိမိဆင်းရဲရန်အတွက်လည်း မကြံစည်၊ သူတစ်ပါးဆင်းရဲရန်အတွက်လည်း မကြံစည်၊ မိမိသူတစ်ပါး နှစ်ဦးလုံး ဆင်းရဲရန် အတွက်လည်း မကြံစည်၊ စိတ်ဆင်းရဲခြင်း၊ စိတ်နှလုံးမသာယာခြင်းကိုလည်း မခံစားရ။

ပုဏ္ဏား၊ အမျက်ထွက်မှု ဒေါသတရား၊ တွေဝေမှု မောဟတရားဖြင့် နှိပ်စက်ဖမ်းစားခြင်း ခံရသောသူသည် ကာယကံမကောင်းမှုကိုလည်း ပြု၏။ ဝစီကံမကောင်းမှုကိုလည်းပြု၏။ မနောကံ မကောင်းမှုကိုလည်း ပြု၏။ ဒေါသကို ပယ်ခွာလိုက်သည်ရှိသော်၊ မောဟကို ပယ်ခွာလိုက်သည် ရှိသော် ကာယကံမကောင်းမှုကိုလည်း မပြု၊ ဝစီကံ မကောင်းမှုကိုလည်း မပြု၊ မနောကံ မကောင်းမှုကို မပြု။

ပုဏ္ဏား၊ အမျက်ထွက်မှု ဒေါသတရား၊ တွေဝေမှု မောဟတရားဖြင့် နှိပ်စက်ဖမ်းစားခြင်း ခံရသောသူသည် မိမိအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ မသိ၊ သူတစ်ပါး အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ မသိ၊ မိမိသူတစ်ပါး နှစ်ဦးလုံး၏အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာမသိ၊ ဒေါသကို ပယ်ခွာလိုက်သည်ရှိသော် မောဟကို ပယ်ခွာလိုက်သည်ရှိသော် မိမိအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။ သူတစ်ပါးအကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။ မိမိသူတစ်ပါး နှစ်ဦးလုံး၏ အကျိုးကိုလည်း ဟုတ်တိုင်းမှန်စွာ သိ၏။

ပုဏ္ဏား၊ ဤသို့လျှင် တရားသည် ကိုယ်တိုင်သိဖြစ်၏။ အခါမလင့်အကျိုးပေး၏။ လာ- ဒီမှာကြည့် ဟု ပြနိုင်၏။ မိမိစိတ်ထဲ၌ စွဲမြဲစွာ ဆောင်ယူထားထိုက်၏။ အရိယာပညာရှိတို့ ကိုယ်စီ ကိုယ်င သိရှိခံစားအပ်၏။

တိကအင်္ဂုတ္တိုရ်၊ ဒုပဏ္ဏာသက၊

၁- ပြဟ္မဏဝဂ်၊ ၄- ပရိဗ္ဗာဇကသုတ်။

## ငါဘုရား ဘာတတ်နိုင်မည်နည်း

ရဟန်းတို့၊ ငါဘုရားသည် လောကနှင့် မငြင်းခုံ၊ လောကသားတို့ကသာ ငါဘုရားနှင့် ငြင်းခုံနေကြသည်။ ရဟန်းတို့၊ တရားအတိုင်း ဆိုလေ့ရှိသော ဓမ္မဝါဒီပုဂ္ဂိုလ်သည် လောက၌ မည်သူတစ်စုံတစ်ယောက်နှင့်မျှ မငြင်းခုံချေ။

ရဟန်းတို့၊ လောက၌ ပညာရှိတို့ကမရှိဟု သမုတ်ထားသောတရားကို ငါဘုရားကလည်း မရှိဟု ဆို၏။ လောက၌ ပညာရှိတို့က ရှိသည်ဟု သမုတ်ထားသောတရားကို ငါဘုရားကလည်း ရှိသည်ဟုပင် ဆို၏။

ရဟန်းတို့၊ မြဲမြံခိုင်ခံ့တည်တံ့သော ဖောက်ပြန်ခြင်းသဘောမရှိသော ရုပ်သည် လောက၌ မရှိဟု ပညာရှိတို့က သမုတ်ထား၏။ ငါဘုရားလည်း ထိုရုပ်မျိုးမရှိဟူ၍ပင် ဆို၏။ မြဲမြံခိုင်ခံ့ တည်တံ့သော ဖောက်ပြန်ခြင်းသဘော မရှိသော ခံစားမှုဝေဒနာ၊ မှတ်သားမှုသညာ၊ ပြုစီရင်မှု သင်္ခါရ၊ သိမှု ဝိညာဉ်သည် လောက၌မရှိဟု ထိုဝေဒနာမျိုး၊ ထိုသညာမျိုး၊ ထိုသင်္ခါရမျိုးမရှိဟူ၍ပင် ဆို၏။

ရဟန်းတို့၊ မမြဲသော၊ မခိုင်ခံ့သော၊ မတည်တံ့သော၊ ဖောက်ပြန်ခြင်း သဘောရှိသော ရုပ်သည် ခံစားမှုဝေဒနာသည် မှတ်သားမှု သညာသည် ပြုစီရင်မှု သင်္ခါရသည် သိမှု ဝိညာဉ်သည် လောက၌ ရှိ၏ဟု ပညာရှိတို့က သမုတ်ထား၏။ ငါဘုရားကလည်း ထိုရုပ်မျိုး၊ ထိုဝေဒနာမျိုး၊ ထိုသညာမျိုး၊ ထိုသင်္ခါရမျိုး၊ ထိုဝိညာဉ်မျိုး ရှိသည်ဟူ၍ပင် ဆို၏။

ရဟန်းတို့၊ လောက၌ ပျက်စီးတတ်သော သဘောရှိသည့်တရားသည် ရှိ၏။ ထိုတရားကို ငါဘုရားသည် ကိုယ်တိုင်သိ၏။ ထိုးထွင်း၍ သိ၏။ ကိုယ်တိုင်သိပြီး၍ ထိုးထွင်း၍ သိပြီး၍ ထိုတရားကို ဟောပြော၏။ ပညတ်၏ အသိဉာဏ်ဝ၌ တင်ပေး၏။ ဖွင့်ပြ၏။ ဝေဖန်ပြ၏။ ပေါ်လွင်အောင်ပြု၏။ အဘယ်တရားနည်းဆိုသော် - လောက၌ ရုပ်သည် ပျက်စီးတတ်သော သဘောရှိသည့် တရားတည်း၊ ခံစားမှုဝေဒနာသည် ပျက်စီးတတ်သော သဘောရှိသည့် တရားတည်း။ မှတ်သားမှုသညာသည် ပျက်စီးတတ်သော သဘောရှိသည့်တရားတည်း။ ပြုစီရင်မှု သင်္ခါရသည် ပျက်စီးတတ်သော သဘောရှိသည့်တရားတည်း၊ သိမှု ဝိညာဉ်သည် ပျက်စီးတတ်သော သဘောရှိသည့် တရားတည်း။ ထိုရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်ကို ငါဘုရားသည် ကိုယ်တိုင်သိ၏။ ထိုးထွင်း၍ သိ၏။ ကိုယ်တိုင်သိပြီး၍ ထိုးထွင်း၍သိပြီး၍ ဟောပြော၏။ ပညတ်၏၊ အသိဉာဏ်ဝ၌ တင်ပေး၏။ ဖွင့်ပြ၏။ ဝေဖန်ပြ၏။ ပေါ်လွင်အောင်ပြု၏။

ရဟန်းတို့၊ အကြင်သူသည် ယင်းသို့ ငါဘုရားဟောပြောသော်လည်း၊ ပညတ်သော်လည်း အသိဉာဏ်ဝ၌တင်ပေးသော်လည်း၊ ဖွင့်ပြသော်လည်း၊ ဝေဖန်ပြသော်လည်း၊ ပေါ်လွင်အောင် ပြုသော်လည်း မသိမမြင်ပေ။ ရဟန်းတို့၊ ဉာဏ်မျက်စိမရှိ၍ မသိမမြင်သည့် ထိုအန္ဓဗာလ ပုထုဇဉ်တို့ကို ငါဘုရား အဘယ်သို့ ပြုလုပ်နိုင်မည်နည်း။

ခန္ဓဝဂ္ဂသံယုတ်၊ ၅- ပုပ္ဖဝဂ်၊

၂- ပုပ္ဖသုတ်။

## နောင်ဘဝကို ဘယ်သူဖန်တီးသလဲ

ရဟန်းတို့၊ အကြင်စေတနာဖြင့် ပြုလုပ်မှုကို ဖြစ်စေ၏။ အကြင်ကြံစည်မှုကိုလည်း ကြံစည်၏။ အကြင်အကိန်းဓာတ်သည်လည်း ကိန်း၏။ ဤစေတနာဖြင့် ပြုလုပ်မှုသည် ကံစိတ်တည်ရန် အကြောင်းဖြစ်၏။ အကြောင်းရှိသော် ကံစိတ်တည်မှု ဖြစ်၏။ ကံစိတ်တည်သည် ရှိသော် စည်ပင်သည်ရှိသော် နောင်အခါ၌ တစ်ဖန်ဖြစ်ပေါ်မှု ဘဝသစ်ဖြစ်သည်ရှိသော် ပဋိသန္ဓေ နေခြင်း၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ ပြင်းစွာပူပန်ရခြင်းတို့သည် ဖြစ်ကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲဒုက္ခအပေါင်းသည် ဖြစ်ပေါ်လေ၏။

ရဟန်းတို့၊ အကယ်၍ စေတနာဖြင့်မပြုလုပ်စေကာမူ မကြံစည်စေကာမူ အကယ်၍ အနုသယအဖြစ်ဖြင့် အတွင်းသန္တာန်၌ ကိန်းအောင်းနေအံ့၊ ဤကိန်းအောင်းခြင်း အနုသယ ဓာတ်သည်ပင် ကံစိတ်တည်ရန် အကြောင်းဖြစ်၏။ အကြောင်းရှိသော် ကံစိတ်တည်မှုသည်ဖြစ်၏။ ကံစိတ်တည်သည်ရှိသော် စည်ပင်သည်ရှိသော် နောင်အခါ၌ တစ်ဖန်ဖြစ်ပေါ်မှု ဘဝသစ်သည် ဖြစ်လေ၏။ နောင်အခါ၌ တစ်ဖန်ဖြစ်ပေါ်မှု ဘဝသစ်သည် ဖြစ်လေ၏။ နောင်အခါ၌ တစ်ဖန်ဖြစ်ပေါ်မှုဘဝသစ်ဖြစ်သည် ရှိသော် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ ပြင်းစွာပူပန်ခြင်း တို့သည် ဖြစ်ကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲဒုက္ခအပေါင်းသည် ဖြစ်ပေါ်လေ၏။

ရဟန်းတို့၊ စေတနာဖြင့်လည်း မပြုလုပ်၊ ကြံလည်း မကြံစည်၊ အတွင်းသန္တာန်၌ ကိန်းလည်း မကိန်းသော် ယင်းသို့မပြုလုပ် မကြံစည် မကိန်းအောင်းခြင်းသည်ပင် ကံစိတ်တည်ရန် အကြောင်းမဖြစ်၊ အကြောင်းမရှိသော် ကံစိတ်တည်မှု မဖြစ်၊ ကံစိတ်မတည်သည်ရှိသော်၊ မစည်ပင်သည် ရှိသော် နောင်တစ်ဖန်ဖြစ်ပေါ်မှု ဘဝသစ်မဖြစ်သည်ရှိသော် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ ပြင်းစွာ ပူပန်ရခြင်းတို့သည် မဖြစ်ကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲဒုက္ခအပေါင်းသည် ချုပ်လေ၏။

နိဒါနသံယုတ်၊ ၄- ကဠာရခတ္တိယဝဂ်၊

၈- စေတနာသုတ်။

## စိတ်

စိတ်သည် ပြိုးပြိုးပြက်ပြက်အရောင်ထွက်သလို ကြည်လင်နေ၏။ အခိုက်အတန့်အားဖြင့် ဝင်လာသော လောဘ၊ ဒေါသ စသည့် မကောင်းသောတရားတို့ကြောင့် ညစ်ညူးရခြင်းဖြစ်သည်။ ဤသို့ဖြစ်သည်ကို ပညာမဲ့သူ လူအများစု (ပုထုဇဉ်)သည် ဟုတ်တိုင်းမှန်စွာ မသိချေ။ မသိသောကြောင့် စိတ်ကို လောဘ ဒေါသ စသည်တို့မဝင်အောင် ဂရုစိုက်ခြင်း မရှိဟု ငါဘုရား ပြောခြင်းဖြစ်သည်။

ကေအင်္ဂုတ္တိုရ်၊ ၆- အစ္ဆရာသင်္ဃာတဝဂ်။

## အပြောင်းအလဲ အမြန်ဆုံးတရား

စိတ်လောက် အပြောင်းအလဲမြန်သည့် အခြားသောတရားကို ငါဘုရားမမြင်၊ စိတ်သည် အလွန်လျင်မြန်စွာပြောင်းလဲ၏။ ဘယ်မျှလောက် လျင်မြန်စွာပြောင်းလဲသည်ဟု ဥပမာပေးရန်ပင် မလွယ်ချေ။

ကေအင်္ဂုတ္တိုရ်၊ ၅- ပဏိဟိတအစ္ဆဝဂ်။

## စိတ်ကို ဖြောင့်မတ်အောင်ထား

စိတ်သည် လှုပ်ရှားတတ်၏။ အာရုံတစ်ခုခု၌ တည်တံ့၍ မနေတတ်၊ ထိန်းသိမ်းစောင့်ရှောက်ဖို့ခက်၏။ မြားလုပ်သမားသည် မြားကို ဖြောင့်စင်းနေအောင် ပြုလုပ်သကဲ့သို့ ပညာရှိသည်စိတ်ကို ဖြောင့်စင်းနေအောင် ပြုလုပ်ရာ၏။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်၏ သဘာဝ

ငါးကို ရေထဲကယူပြီး ကုန်းပေါ်တင်ထားလျှင် တဖျပ်ဖျပ်ခုန်နေသကဲ့သို့ပင် စိတ်ကို ကာမဂုဏ်ရေအိုင်မှ ထုတ်ဆောင်ပြီး ဘာဝနာကြည်းကုန်းထက်၌ တင်လိုက်လျှင် တဖျပ်ဖျပ်ခုန်ကာ တုန်လှုပ်နေလေ၏။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်ကိုဆုံးမ

နိုင်ကွပ်ခြင်းငှာ ခဲယဉ်း၍ လှစ်ခနဲ လှစ်ခနဲကျချင်ရာ အာရုံ၌ ကျနေတတ်သော စိတ်ကိုဆုံးမခြင်းသည် ကောင်း၏။ ဆုံးမထားအပ်သောစိတ်သည် ချမ်းသာကို ရွက်ဆောင်တတ်၏။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်ကိုစောင့်ရှောက်

အလွန်သိမြင်နိုင်ခဲ၍ အလွန့်အလွန်လည်း သိမ်မွေ့လျက် ကောင်းကောင်းဆိုးဆိုး သူကျချင်သည့်အာရုံ၌ ကျနေတတ်သည့် စိတ်ကို ပညာရှိသည် စောင့်ရှောက်ရာ၏။ လုံခြုံအောင် စောင့်ရှောက်ထားသည့် စိတ်သည် ချမ်းသာကို ရွက်ဆောင်တတ်၏။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်ကို ထိန်းသိမ်း

စိတ်သည် အဝေးကြီးသို့ သွားနိုင်၏။ (သို့ရာတွင်) တစ်ခုပြီးတစ်ခု ဖြစ်သည်။ အထည်ဒြပ်မရှိ။ (သို့ရာတွင်) နှလုံးတည်းဟူသော ဂူ၌နေသည်။ (ထိုထူးဆန်းသော) စိတ်ကို စောင့်စည်းချုပ်တည်းနိုင်သော သူတို့သည် မာရ်နတ်၏အနှောင်အဖွဲ့မှ လွတ်နိုင်ကြ၏။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်၏အဖျက်စွမ်းရည်

ဆန့်ကျင်ဘက် တစ်ယောက်က သူ၏ ဆန့်ကျင်ဘက်ဖြစ်သူ၏ အကျိုးမဲ့ကို ပြုလုပ်ခြင်းထက် လည်းကောင်း၊ ရန်သူက သူ၏ရန်ဘက်ဖြစ်သူ၏အကျိုးမဲ့ကို ပြုလုပ်ခြင်းထက် လည်းကောင်း မကောင်းသဖြင့် ဆောက်တည်ထားသောစိတ်က အဆပေါင်းများစွာ ပို၍ အကျိုးမဲ့ကို ပြုလုပ်တတ်လေသည်။

ဓမ္မပဒ၊ စိတ္တဝဂ်။

## စိတ်၏အပြုစွမ်းရည်

အမိအဖ ဆွေမျိုးဉာတိများထက် ကောင်းစွာ ဆောက်တည်ထားသော စိတ်က အဆပေါင်းများစွာ ပိုလွန်၍ ကောင်းကျိုးချမ်းသာကို ဆောက်ရွက်နိုင်လေသည်။

ဓမ္မပဒ၊ စိတ္တဝဂ်။

## မိမိကိုယ် ကိုယ်ကောင်းအောင် လုပ်ပါဦး

မိမိကိုယ်ကို ရှေးဦးစွာ လျောက်ပတ်သောအကျင့်၌ သွင်းထားဦး၍ နောက်မှ အခြားသူကို ဆုံးမရာ၏။ ပညာရှိသည် ဂုဏ်ညစ်ညူးသူ မဖြစ်သင့်။

ဓမ္မပဒ၊ အတ္တဝဂ်။

## ကိုယ့်ကိုယ်ကို အလျင်ဆုံးမ

အခြားသူကိုဆုံးမသလို မိမိကိုယ်ကိုလည်း ထိုအတိုင်းပြုလုပ်ရာ၏။ ကိုယ်တိုင်က ယဉ်ကျေးပြီးမှ အခြားသူကို ဆုံးမရာ၏။ အမှန်ကား မိမိကိုယ်သာ ဆုံးမရခက်သည်။

ဓမ္မပဒ၊ အတ္တဝဂ်။

## တကယ့် သူရဲကောင်း

စစ်မြေပြင်၌ ရန်သူတစ်သန်းတပ်ကို အောင်သောသူထက် တစ်ယောက်တည်းဖြစ်သော မိမိကိုယ်ကို အောင်နိုင်သောသူသာလျှင် တကယ့်သူရဲကောင်းမည်၏။

ဓမ္မပဒ၊ အတ္တဝဂ်။

## မိမိကိုယ်သာ ကိုးကွယ်ရာ

မိမိသည်သာလျှင် မိမိ၏အားကိုးရာဖြစ်၏။ အခြားသောသူသည် အဘယ်မှာလျှင် မိမိ၏အားကိုးရာဖြစ်နိုင်ပါမည်နည်း။ မိမိကိုယ်ကို ကောင်းစွာဆုံးမခြင်းဖြင့် ရခဲသော အားကိုးရာကို ရနိုင်လေသည်။

ဓမ္မပဒ၊ အတ္တဝဂ်။

## မိမိကိုယ်ကို ချစ်လျှင်

မိမိကိုယ်ကိုချစ်အပ်၏ဟု နားလည်လျှင် မိမိကိုယ်ကို မကောင်းမှုနှင့် မယှဉ်စေရာ။ မကောင်းမှုကိုပြုလေ့ရှိသောသူသည် ချမ်းသာသုခကို ရဖို့ရန်ခဲယဉ်း၏။

သဂါထာဝဂ္ဂ၊ ကောသလသံယုတ်၊

ပိယသုတ်။

## ကိုယ့်ကိုယ် ကိုယ်ချစ်လျှင်

မိမိကိုယ်ကို ချစ်အပ်၏ဟုသိလျှင် ထိုမိမိကိုယ်ကို အကောင်းဆုံးသော စောင့်ရှောက်ခြင်းမျိုးဖြင့် စောင့်ရှောက်ရာ၏။ ပညာရှိသောသူသည် အရွယ်သုံးပါးတွင် တစ်ပါးပါးသော အရွယ်၌ သူတော်ကောင်းဖြစ်အောင် လုပ်ရာ၏။

ဓမ္မပဒ၊ အတ္တဝဂ်။

## သူတစ်ပါးအတွက် ကိုယ်ကျိုးမပျက်စေနှင့်

များစွာသောသူတစ်ပါး၏ အကျိုးစီးပွားကြောင့် အနည်းငယ်သော မိမိ၏အကျိုးစီးပွားကို မယုတ်စေသင့်။ မိမိ၏အကျိုးစီးပွားကို ကောင်းစွာသိသဖြင့် ကိုယ့်အကျိုးစီးပွား၌ လေ့ကျက်သူဖြစ်ရာ၏။

ဓမ္မပဒ၊ အတ္တဝဂ်။

## ကိုယ့်မျက်ချေးကို ကိုယ်ကြည့်

အခြားသူတို့၏ ချွတ်ယွင်းချက်၊ ဟာကွက်ကိုလည်းကောင်း၊ အခြားသူတို့ ဘာလုပ်သည်၊ ဘာမလုပ်သည်ကို လည်းကောင်း ကြည့်ရှု၍မနေရာ၊ မိမိဘာကို လုပ်သည်၊ ဘာကို မလုပ်ရသေးဟူသော အချက်ကိုသာ ကြည့်ရှုဆင်ခြင်ရာ၏။

ဓမ္မပဒ၊ အပ္ပဝဂ်။

## စိတ်ပိုင်ကိုယ်စိုး ကိုယ့်အားကိုယ်ကိုး

သူများအလိုလိုက်ရခြင်း ဟူသမျှသည် ဆင်းရဲ၏။ ကိုယ့်အားကိုယ်ကိုး၍ စိတ်ပိုင်းကိုယ်စိုးနေရခြင်းသည် ချမ်းသာ၏။ အများနှင့်ဆက်ဆံနေရသောသူသည် ပင်ပန်းကြ၏။ ဒုက္ခနှင့်တွဲမိလျှင် လွတ်မြောက်ဖို့မလွယ်ချေ။

ဥဒါန်း၊ ဝိသာခါသုတ်။

## ကိုယ်ချင်းစာ

ငါသည် အသက်ရှည်စွာ ချမ်းချမ်းသာသာနေချင်သည်။ ငါ့ကို သူများက သတ်မည်ဆိုလျှင် ငါမကြိုက်၊ ငါမကြိုက်သလိုပင် သူများကိုငါက သတ်မည်ဆိုလျှင် သူများလည်း ကြိုက်မည် မဟုတ်။ `အဘယ့်ကြောင့် ကိုယ့်ကိုပြုလုပ်လျှင် မကြိုက်သောအမှုမျိုးဖြင့် သူများကို ပြုလုပ်သင့်သနည်း´ ဤသို့စဉ်းစားကာ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ရမည်။

မဟာဝဂ္ဂသံယုတ်၊ ဝေဠုဒွါရဝဂ်။

## တစ်ဖက်သားကိုလေးစားပါ

သံသရာသည် အစမရှိ၊ ဆင်းရဲမွဲတေသူ၊ ရုပ်ဆင်းချို့တဲ့သူကိုတွေ့လျှင် ငါလည်း သူ့လိုဖြစ်ခဲ့ဖူးလေပြီဟု ဆုံးဖြတ်ရမည်။

အနမတဂ္ဂသံယုတ်။

## ဘယ်သူ့ကိုလဲ

ရဟန်းတို့၊ ဤကိုယ်သည် သင်တို့၏ဥစ္စာ (သင်တို့ဟာ) မဟုတ်။ သူတစ်ပါးဥစ္စာ (သူတစ်ပါးဟာ)လည်း မဟုတ်။ ရဟန်းတို့၊ ဤကိုယ်သည် ရှေးကံဟောင်းကြောင့် ဖြစ်လာသောအရာတည်း။ အကြောင်းတရားများက ပြုစီမံထားသောအရာတည်း၊ စေတနာကံလျှင် အကြောင်းခံရှိ၏။ ခံစားမှု၏တည်ရာဖြစ်၏ ဟူ၍မှတ်အပ်၏။

နိဒါနသံယုတ်။

## ကိုယ့်အလှည့်ကို မရှောင်နှင့်

သူများအိမ်သွား၍ စားသောက်ခဲ့ပြီး ကိုယ့်အိမ်လာသောအခါ ကျွေးတုံ့မပြုသောသူသည် သူယုတ်။

သုတ္တနိပါတ်၊ ဝေလသုတ်။

## ဘဝင် မမြင့်နှင့်

မိမိကိုယ်ကို မြှောက်ပင့် ကိုယ်ရည်သွေးလျက် သူတစ်ပါးကို ရှုတ်ချသောသူသည် ထိုဘဝင်ကိုင်သောမာနကြောင့်ပင် သိက္ခာကျကာ လူယုတ်မာဖြစ်ရ၏။

သုတ္တနိပါတ်၊ ဝသလသုတ်။

## ကိုယ့်ကိုယ်ကို မလိမ်နှင့်

အချင်းယောက်ျား၊ လောက၌ မကောင်းမှုကို ပြုသောသူအား ဆိတ်ကွယ်ရာ အရပ်မည်သည် မရှိ။ မှန်သောအမှုဖြစ်ဖြစ်၊ မှားသောအမှုဖြစ်ဖြစ် သင်ပြုသောအမှုကို သင်ကိုယ်တိုင် သိ၏။

အချင်းလူသား၊ ကောင်းမြတ်သော သက်သေဖြစ်သည့် မိမိကိုယ်ကို မထီမဲ့မြင် ပြုသောသူသည် မိမိ၌ ထင်ရှားသော မကောင်းမှုကို မိမိပင် မသိပါစေနှင့်ဟု လျှို့ဝှက် ဖုံးကွယ်သည်နှင့် တူ၏။

တိကအင်္ဂုတ္တိုရ်၊ အဓိပတေယျသုတ်။

# ပညာရှိသူတော်ကောင်း

## သူတော်ကောင်း

အကြင်သူသည် သူတစ်ပါးကျေးဇူးကို သိတတ်၏။ ကျေးဇူးရှင်ကို ကျေးဇူးဆပ်တတ်၏။ သူတော်ကောင်းနှင့်ပေါင်းသင်း၏။ မိတ်ဆွေဖြစ်သူ ဆင်းရဲနိမ့်ကျသွားသော်လည်း မျက်နှာမလွှဲနိုင်မြဲသောမိတ်ဆွေဖြစ်၏။ ဆင်းရဲသောသူ၏အမှုကိစ္စကို ဂရုစိုက်၍ဆောင်ရွက်တတ်၏။ ထိုသို့သဘောရှိသောသူကို သူတော်ကောင်း ဟုဆိုကြကုန်၏။

ဇာတက၊ အရဘဂ်ဇာတ်။

## ပညာရှိတို့သဘော

ပညာရှိတို့သည် မိမိချမ်းသာရေးဟူသောအကြောင်းကြောင့် ယုတ်မာသောအမှုကို မပြုကြပေ။ သူတော်ကောင်းတို့သည် ဆင်းရဲဒုက္ခနှင့်ကြုံတွေ့သောကြောင့် ဖြစ်စေ၊ နှိပ်စက်ညှင်းဆဲခံရသောကြောင့်ဖြစ်စေ၊ ချစ်သောကြောင့်ဖြစ်စေ၊ အမျက်ရန်ငြိုးကြောင့်ဖြစ်စေ မှန်ကန်သောတရားကို မစွန့်ကြချေ။

ဇာတက၊ သရဘင်္ဂဇာတ် ၅၂၂။

## ကဲ့ရဲ့တာကို ဂရုမစိုက်နှင့်

တစ်ခဲနက် ကျောက်အတိပြီးသော တောင်ကြီးသည် လေတိုက်ခြင်းကြောင့် မတုန်လှုပ်သကဲ့သို့ ပညာရှိတို့သည် ကဲ့ရဲ့ခြင်း၊ ချီးမွမ်းခြင်းတို့ကြောင့် မတုန်လှုပ်ကြချေ။

ဓမ္မပဒ၊ ပဏ္ဍိတဝဂ်။

## ချီးမွမ်းတပည့် ကဲ့ရဲ့ဆရာ

အပြစ်ကို ဖော်ပြပြီး နှိပ်၍ ဆိုဆုံးမသောပညာရှိကို မြေတွင် မြှုပ်ထားသည့်ရွှေအိုးကို ညွှန်ကြားပေးသောသူကဲ့သို့ မှတ်ယူရာ၏။ ထိုကဲ့သို့သော ပညာရှိမျိုးကို မှီဝဲဆည်းကပ်ခြင်းသည် မဆုတ်ယုတ်နိုင်၊ မြတ်သည်သာဖြစ်၏။

ဓမ္မပဒ၊ ပဏ္ဍိတဝဂ်။

## ထောင်မြင် ရာစွန့်

အနည်းငယ်သောချမ်းသာကလေးကို စွန့်လိုက်ခြင်းဖြင့် များမြောင်သောချမ်းသာကိုရဖို့ မြင်လျှင် များမြောင်သောချမ်းသာကိုမြင်သော ပညာရှိသည် အနည်းငယ်သော ချမ်းသာကလေးကို စွန့်လွှတ်ရာ၏။

ဓမ္မပဒ၊ ပကိဏ္ဏကဝဂ်။

## ရည်မှန်းချက်ကို မျက်ခြည်မပြတ်စေနှင့်

ပညာရှိသောသူသည် ဆင်းရဲဒုက္ခနှင့်တွေ့ကြုံနေရသော်လည်း ချမ်းသာရရှိရေးအတွက် ရည်မှန်းချက် အာသာဆန္ဒကို မဖြတ်ရာ။ လောက၌ ဆင်းရဲချမ်းသာ တွေ့မှုဆိုသည်ကား အလွန်များ၏။ ဆင်းရဲဒုက္ခနှင့် တွေ့ကြုံနေရသော်လည်း နောင်တစ်ချိန်၌ ချမ်းသာသုခတွေ့ဖို့ အလှည့် ရောက်လာနိုင်လေသည်။ ဤသို့ ဖြစ်တတ်ပုံကို မစဉ်းစားဘဲ ဒုက္ခကို အရှုံးပေးသောသူသည် သေမင်းနိုင်ငံသို့ ရောက်ရှိ၏။

မဟာဇနက ဇာတ်တော်။

## ပညာသာ အမြတ်ဆုံး

အကျင့်သီလ၊ ဂုဏ်အသရေ၊ သူတော်ကောင်းတရား ဟူသော အရည်အချင်း သုံးမျိုးတို့သည် ပညာရှိသောသူသို့ အစဉ်လိုက်ပါနေကြ၏။ သို့ဖြစ်၍ ပညာသာလျှင် ကြယ်တာရာအပေါင်း ခပြောင်းသော လမင်းကဲ့သို့ အမြတ်ဆုံးဖြစ်သည်ဟု ဘုရားအစရှိသော ပညာရှိတို့ မိန့်ဆိုကြလေသည်။

သရဘင်္ဂဇာတ် ၅၂၂။

## အမှန်တရားကိုပြောမှ သူတော်ကောင်း

အနိုင်မယူထိုက်သော မိဘတို့ကို အနိုင်ယူသောမင်းသည် မင်းမဟုတ်။ အဆွေခင်ပွန်းကို ကောက်ကျစ်စဉ်းလဲခြင်းဖြင့် အနိုင်ယူသောအဆွေခင်ပွန်းသည် အဆွေခင်ပွန်း မဟုတ်။ လင်သားကို မကြောက်သောမိန်းမသည် မယား မဟုတ်။ အိုမင်းသော မိဘကို မမွေးမြူသော သားသမီးသည် သားသမီးမဟုတ်။ လူကောင်း၊ သူကောင်း မပါသော သဘင်သည် သဘင်မဟုတ်။ အမှန်တရားကို

မပြောသော သူတော်ကောင်းသည် သူတော်ကောင်းမဟုတ်။ တပ်မက်ခြင်း၊ အမျက်ထွက်ခြင်း၊ မိုက်မဲတွေဝေခြင်း ကိုပယ်၍ တရားကို ဟောပြောသောသူတို့သာ သူတော်ကောင်းမည်ကုန်၏။

မဟာသုတသောမဇာတ် ၅၃၇။

## သူတော်ကောင်း ဥစ္စာ ရတနာ ခုနစ်ပါး

ရဟန်းတို့၊ (သူတော်ကောင်း)ဥစ္စာတို့သည် ခုနစ်ပါးရှိကုန်၏။ အဘယ်ခုနစ်ပါးနည်းဟူမူ -

၁။ ယုံကြည်မှု သဒ္ဓါဟူသော ဥစ္စာ

၂။ စောင့်ထိန်းမှု သီလဟူသော ဥစ္စာ

၃။ ရှက်မှု ဟိရိဟူသော ဥစ္စာ

၄။ ကြောက်မှု ဩတ္တပ္ပဟူသော ဥစ္စာ

၅။ အကြားအမြင်များမှု သုတဟူသော ဥစ္စာ

၆။ စွန့်ကြဲမှု စာဂဟူသော ဥစ္စာ

၇။ ပညာ ဟူသော ဥစ္စာ

ဤခုနစ်ပါးတို့ပင်ဖြစ်၏။

သတ္တအင်္ဂုတ္တိုရ်၊ သံခိတ္တဓနသုတ်။

## ပညာရှိဖြစ်ရန် နည်းလမ်း

ရင့်ကျက်သော၊ သိမ်မွေ့သောအကြောင်းကို သိစွမ်းနိုင်သော၊ များသော အကြားအမြင်ရှိသော ပညာရှိတို့ကို မှီဝဲဆည်းကပ်ရာ၏။ ပို့ချချက်ကိုလည်း သင်ယူရာ၏။ အနက်အဓိပ္ပာယ်ကိုလည်း မေးမြန်းရာ၏။ သင်ကြားပြောပြချက်ကိုလည်း ရိုသေလေးစားစွာ နာခံမှတ်သားရာ၏။ ဤသို့ပြုသည်ရှိသော် လူသားသည် ပညာရှိဖြစ်နိုင်၏။

သရဘင်္ဂဇာတ် ၅၂၂။

## အမှန်တရားကို ဖော်ထုတ်ပါ

ပညာမဲ့လူမိုက်တို့နှင့် ရောနှောနေသော ပညာရှိကို တရားစကားမပြောပြောလျှင် ပညာရှိဟုမသိနိုင်ကုန်။ ရှင်တော်ဘုရားဟောကြားတော်မူသည့် အမြိုက်တရားကို ဟောပြောမှသာ ပညာရှိဟု သိနိုင်ကုန်၏။ (သို့ဖြစ်၍) အမှန်တရားကို ဟောပြောရာ၏။ အမှန်တရားကို ထွန်းပြရာ၏။ အမှန်တရား တည်းဟူသော သူတော်ကောင်းတို့၏ တံခွန်ကို မြှင့်တင်ရာ၏။ ပညာရှိတို့သည် ကောင်းစွာဟောပြောခြင်းဟူသော တံခွန်ရှိကြကုန်၏။ အမှန်တရားသည် သူတော်ကောင်းတို့၏ တံခွန်အောင်လံပေတည်း။

နိဒါနဝဂ္ဂသံယုတ်။

## လူမိုက်

အိပ်မပျော်သောသူအဖို့ ညဥ့်တာသည် ရှည်၏။ ခရီးပန်းသောသူအဖို့ တစ်ယူဇနာခရီးသည် ရှည်ဝေး၏။ သူတော်ကောင်းတရားကို မသိသော လူမိုက်အဖို့ သံသရာသည် ရှည်လျား၏။

ဓမ္မပဒ၊ ဗာလဝဂ်။

## လူ့ ယောက်မ

နေ့စဉ် ဟင်းမွှေနေသော ယောက်မသည် ဟင်း၏အရသာကို မသိသကဲ့သို့ လူမိုက်သည် ပညာရှိသူတော်ကောင်းကို တစ်သက်လုံး ဆည်းကပ်နေသော်လည်း သူတော်ကောင်းတရားကို မသိချေ။ လျှာသည် ခဏလေးဖြင့် ဟင်း၏အရသာကို သိသကဲ့သို့ ပညာရှိသောသူသည် ပညာရှိသူတော်ကောင်းကို ခေတ္တမျှဆည်းကပ်သော်လည်း သူတော်ကောင်းတရားကို သိလေသည်။

ဓမ္မပဒ၊ ဗာလဝဂ်။

## လူမိုက်ပညာရှိ

လူမိုက်ပင်ဖြစ်သော်လည်း မိမိမိုက်မှားမှန်းကိုသိက ယင်းသို့ သိဖော်ရသည့်အတွက် ပညာရှိဟု ဆိုနိုင်၏။ လူမိုက်ဖြစ်လျက် ကိုယ့်ကိုယ်ကို ပညာရှိဟု ထင်နေသောသူကိုကား စင်စစ် လူမိုက်ဟု ဆိုအပ်၏။

ဓမ္မပဒ၊ ဗာလဝဂ်။

## စောင့်ကြည့်ပါ

မကောင်းမှုကံ အကျိုးမပေးသေးသမျှ လူမိုက်သည် မကောင်းမှုကို ပျားကဲ့သို့ချိုသည်ဟု ထင်၏။ အကျိုးပေးသောအခါ၌ကား ဆင်းရဲဒုက္ခရောက်ရလေ၏။

ဓမ္မပဒ၊ ဗာလဝဂ်။

## ပြာပုံမီးခဲလောင်မစဲ

ညှစ်ခါစနို့သည် မချဉ်မသိုး အနိုးမလွှတ်သကဲ့သို့ မကောင်းမှုသည် ပြုခါစ၌ အနိုးမလွှတ်တတ်၊ ပြာဖုံးသော မီးကျီးခဲကဲ့သို့ လူမိုက်ကို လောင်ကျွမ်းလျက်လိုက်၏။

ဓမ္မပဒ၊ ဗာလဝဂ်။

## သူများမျက်ရည်နှင့် ခြေမဆေးချင်နှင့်

သူများကို ဒုက္ခပေးမှ ရရှိမည့်ချမ်းသာမျိုးကို လိုချင်သောသူသည် ရန်သူနှင့် ဆက်ဆံနေရသကဲ့သို့ ရန်မှ မလွတ်နိုင်။

ဓမ္မပဒ၊ ပကိဏ္ဏကဝဂ်။

## အရိပ်နေနေ အခက်ချိုးချိုး

လူကိုမဆိုထားဘိ သစ်ပင် ပင်ဖြစ်စေကာမူ သူ့အရိပ်ကို ခိုဖူးလျှင် သူ့အကိုင်းကို မချိုးမဖျက်ရာ။ မိတ်ဆွေကို ပြစ်မှားသောသူသည် အလွန်ယုတ်မာသူဖြစ်၏။

တေမိယဇာတ်တော်။

## လေဆန်ကို တံတွေးမထွေးနှင့်

အပြစ်မရှိ စင်ကြယ်သန့်ရှင်းနေသည့် မပြစ်မှားထိုက်သောသူကို ပြစ်မှားလျှင် လေဆန်သို့ ပစ်လိုက်သောမြူမှုန်ကဲ့သို့ ထိုပြစ်မှားမှု အပြစ်သည် ပြစ်မှားသူထံသို့သာ ပြန်၍ လာလေ၏။

ဓမ္မပဒ၊ ပါပဝဂ်။

# မကောင်းမှု

## မကောင်းမှုကို ဖော့မတွေးနှင့်

မဖြစ်စလောက်သော အပြစ်ကလေးသည် အကျိုးပေးလာလိမ့်မည်မဟုတ်ဟု မကောင်းမှုကို မထီမဲ့မြင်မပြုရာ၊ ရေစက်ကလေးများ ကျဖန်များသောအခါ ရေအိုးကြီး ပြည့်သကဲ့သို့ လူမိုက်သည် နည်းနည်းစီ နည်းနည်းစီ ဆည်းပူးထားသော မကောင်းမှုဖြင့် ပြည့်လာတတ်၏။

ဓမ္မပဒ၊ ပါပဝဂ်။

## ကိုယ်နှင့် နှိုင်း မရိုင်း

သတ္တဝါမှန်သမျှ ရိုက်နှက် သတ်ပုတ်ခံရမည်ကို ကြောက်၏။ မိမိ၏အသက်ကို ချစ်၏။ မိမိကိုယ်ကို ဥပမာထား၍ သူတစ်ပါးကို မနှိပ်စက် မသတ်ဖြတ်ရာ။

ဓမ္မပဒ၊ ဒဏ္ဍဝဂ်။

## မိမိကောင်းစားရေးအတွက် သူတစ်ပါးကို မနှိပ်စက်နှင့်

သတ္တဝါဟူသမျှ ချမ်းသာကို အလိုရှိကြသည်။ မိမိချမ်းသာရေးအတွက် သူတစ်ပါးကို ညှဉ်းဆဲသောသူသည် နောင်အခါ၌ ချမ်းသာကို မရနိုင်၊ မညှဉ်းဆဲသောသူသာ ချမ်းသာကို ရနိုင်သည်။

ဓမ္မပဒ၊ ဒဏ္ဍဝဂ်။

## ဆင်းရဲဒုက္ခကို ကြောက်လျှင်

ဆင်းရဲဒုက္ခကိုကြောက်လန့် ရွံ့မုန်းကြလျှင် လူရှေ့မှာဖြစ်စေ၊ ကွယ်ရာမှာဖြစ်စေ မကောင်းမှုကို မပြုကြနှင့်၊ အကယ်၍ မကောင်းမှုကို ယခုလည်းပြုလျှင်၊ နောင်လည်းပြုမည်ဆိုလျှင် ထိုသူသည် ဆင်းရဲဒုက္ခမှ လွတ်အောင် ပြေးထွက်သော်လည်း မလွတ်နိုင်။

ဥဒါန်း၊ ကုမာရကသုတ်။

## ဆိတ်ကွယ်ရာအရပ်မရှိ

လောက၌ မကောင်းမှုကို ပြုဖို့ရန်အတွက် ဆိတ်ကွယ်ရာအရပ်ဟူ၍ မရှိချေ။ လူသူလေးပါးကင်းသောနေရာဟူ၍လည်း မရှိချေ။ အခြားသူတစ်ယောက်မျှ မရှိဟု ဆိုရသောအရပ်၌ မိမိတစ်ယောက်ရှိနေသည်ကို သတိမမေ့အပ်ချေ။

ဇာတက၊ သီလဝီမံသနဇာတ် ၃၀၅။

## တရားကို မသတ်နှင့်

တရားကို ကိုယ်ကသတ်လျှင် တရားက ကိုယ့်ကို ပြန်သတ်တတ်သည်။ အသတ်မခံရသောတရားသည် မည်သူတစ်စုံတစ်ယောက်ကိုမျှ မသတ်။ သို့ဖြစ်၍ တရားကို မသတ်ပါနှင့်။ သင့်ကို သင် တတ်သောတရားက ပြန်မသတ်ပါစေနှင့်။

ဇာတက၊ စေတိယဇာတ် ၄၂၂။

## တရားစောင့်သူကို တရားက ပြန်စောင့်သည်

တရားစောင့်သောသူကို တရားက ပြန်စောင့်သည်။ ကောင်းစွာ အလေ့အကျက် ပြုထားသော တရားသည် ချမ်းသာကို ဆောင်ရွက်၏။ ဤကား တရားကျင့်ခြင်း၏အကျိုးပေတည်း။ တရားကျင့်သောသူသည် မကောင်းသော နေရာသို့ မရောက်ချေ။

ထေရဂါထာ၊ ဓမ္မိကထေရ်ဝတ္ထု။

## လေဆန်ကိုပစ်သည့် မြူမှုန်

မြူမှုန်ကိုဆုပ်၍ လေဆန်သို့ပစ်လျှင် ထိုမြူမှုန်သည် ပစ်သူထံသို့ ပြန်လာသကဲ့သို့ မပြစ်မှားထိုက်သူကို ပြစ်မှားလျှင် ထိုအပြစ်သည် ပြစ်မှားသူထံသို့သာ ပြန်လာလေသည်။

သာဠိယဇာတ် ၃၆၇။

## ကိုယ့်ဝစီ ကိုယ့်ဆီပြန်

ဘယ်သူ့ကိုမျှ ရှန့်ရင်းကြမ်းတမ်းသောစကားကို မပြောပါနှင့်၊ အပြောခံရသောသူတို့သည် သင့်ကိုပြန်၍ ရှန့်ရင်းကြမ်းတမ်းသောစကားကို ပြောကြလိမ့်မည်။ ထိုစကားသည် မှန်၏။ ချုပ်ချယ်သော စကားသည် ဆင်းရဲခြင်း၏ အကြောင်းဖြစ်၏။ တုံ့ပြန်မှုတို့သည် သင့်ထံသို့ ရောက်လာကြလိမ့်မည်။

ဓမ္မပဒ၊ ဒဏ္ဍဝဂ်။

## ကိုယ်ပြုတဲ့အမှု ကိုယ်မှာတွေ့

လူသားသည် မိမိပြုသောအမှုတို့ကို (တစ်နေ့သောအခါ) မိမိဥပင်တွေ့မြင်ရ၏။ ကောင်းသောအမှုကို ပြုသောသူသည် ကောင်းသောအရာကိုတွေ့ရ၏။ မကောင်းသော အမှုကိုပြုသောသူသည် မကောင်းသောအရာကို တွေ့ရ၏။ အချိုမျိုးစေ့ကိုစိုက်လျှင် အချိုသီး သီးမည်။

ဝေနသာခဇာတ် ၃၅၃။

## ကိုယ့်ကာယကံ ကိုယ့်ဆီပြန်

သူတစ်ပါးကို သတ်ဖြတ် ညှဉ်းဆဲသောသူသည် (မိမိအားအခြားလူက) ညှဉ်းဆဲ သတ်ဖြတ်ခြင်းကို ခံရ၏။ သူများကို အောင်နိုင်သောသူသည် သူတစ်ပါးက အောင်နိုင်ခြင်းကိုခံရ၏။ သူတစ်ပါးကို ဆဲရေးသောသူသည် မိမိအား အခြားသူများက ဆဲရေးခြင်းကိုခံရ၏။ သူများကို ချုပ်ချယ်သောသူသည် သူများ၏ချုပ်ချယ်ခြင်းကိုခံရ၏။ စင်စစ်ကား လုယက်ဖျက်ဆီးတတ်သော သူသည် ကိုယ်ပြုသည့်အမှုက ကိုယ့်ကိုပြန်ဝင်၍လည်ကာ အခြားသူ၏ လုယက်ဖျက်ဆီးခြင်းကိုခံရ၏။

သဂါထာဝဂ္ဂသံယုတ်၊ ကောသလသံယုတ်။

# မေတ္တာ

## မေတ္တာခြုံမှ လုံသည်

သတ္တဝါအားလုံးအပေါ် မေတ္တာစိတ်ထားသောသူသည် သူတစ်ပါးကို မညှင်းဆဲ မသတ်ဖြတ်၊ ညှင်းဆဲ သတ်ဖြတ်ရန်လည်း မတိုက်တွန်း၊ သူတစ်ပါးကိုလည်း အနိုင်မကျင့်၊ သူတစ်ပါးကို မရှုံးစေ၊ ထိုပုဂ္ဂိုလ်မျိုးမှာ မည်သည့်အကြောင်းကြောင့်မျှ ဘေးရန် မဖြစ်နိုင်။

ဣတိဝုတ်၊ မေတ္တာဘာဝနာသုတ်။

## ရွှင်လန်းချမ်းမြေ့ပါစေ

ပညာရှိသူတော်ကောင်းတို့ ကဲ့ရဲ့မည့်အလုပ်မျိုးဖြစ်က အသေးအဖွဲကလေးပင်ဖြစ်စေ မည်သည့်အမှုကိုမျှ မပြုသင့်ပေ၊ `သတ္တဝါအားလုံးသည် ချမ်းချမ်းသာသာရှိကြပါစေ၊ အေးအေး ဆေးဆေး နေနိုင်ကြပါစေ၊ စိတ်ရွှင်လန်းချမ်းမြေ့ကြပါစေ´ ဟူသာ မေတ္တာပွားသင့်သည်။

သုတ္တနိပါတ်၊ မေတ္တာသုတ်။

## အချင်းချင်း ဒုက္ခမပေးနှင့်

အချင်းချင်း တစ်ယောက်ကိုတစ်ယောက် မလှည့်စားပါနှင့်။ မည်သည့်နေရာမှာမဆို တစ်ယောက်က အခြားသူတစ်ယောက်ကို မထီမဲ့မြင် မပြုပါနှင့်။ ထိပါးစော်ကားခြင်းဖြင့် လည်းကောင်း၊ အမျက်ဒေါသဖြင့်လည်းကောင်း အချင်းချင်းကို ဒုက္ခမပေးပါနှင့်။

သုတ္တနိပါတ်၊ မေတ္တာသုတ်။

## အားလုံးအပေါ် မေတ္တာထားပါ

မိခင်သည် တစ်ယောက်တည်းသောသားကို အသက်နှင့်လဲ၍ စောင့်ရှောက်သကဲ့သို့ ထိုနည်းအတူ သတ္တဝါအားလုံးအပေါ်၌ အပိုင်းအခြားမရှိသော မေတ္တာစိတ်ကို ပွားသင့်ပေသည်။

သုတ္တနိပါတ်၊ မေတ္တာသုတ်။

## အာဃာတမထားနှင့်

ငါ့ကိုဆဲဖူးသည်၊ ငါ့ကိုနှိပ်စက်ဖူးသည်၊ ငါ့ကိုအနိုင်ကျင့်ဖူးသည်၊ ငါ့ဥစ္စာကို ခိုးယူဖူးသည် ဟုရန်ငြိုးဖွဲ့ထားလျှင် ရန်မငြိမ်းချေ။ ရန်ငြိုးကို ဖျောက်ပစ်မှသာ ရန်ငြိမ်းလေသည်။

ဓမ္မပဒ၊ ယမကဝဂ်။

## ရန်ရန်ချင်း မတုံ့လျှင်းနှင့်

ဤလောက၌ ရန်ပြုသူကို ရန်တုံ့မှုခြင်းအားဖြင့် ရန်ငြိမ်းသွားသည်ဟု တစ်ကြိမ်တစ်ခါမျှ မရှိခဲ့ဖူးပေ။ ရန်တုံ့မမူခြင်းအားဖြင့်သာ ရန်ငြိမ်းသွားလေသည်။ ဤကား ရှေးအစဉ်အလာက ဖြစ်လာသော သဘောတရားပင် ဖြစ်သည်။

ဓမ္မပဒ၊ ယမကဝဂ်။

## ချစ်ခင်ခြင်းသာ အရသာ

ကောင်းသည်ဖြစ်စေ၊ မကောင်းသည်ဖြစ်စေ၊ နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ ရင်းရင်းနှီးနှီး စားရလျှင် အရသာရှိသည်သာဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် ချစ်ကျွမ်းဝင်ခြင်းသည် မွန်မြတ်သော အရသာဖြစ်သောကြောင့်တည်း။ (ချစ်ကျွမ်းဝင်ခြင်းကပင် မွန်မြတ်သောအရသာ ဖြစ်နေသောကြောင့်တည်း။)

ကေသဝဇာတ် ၃၄၆။

# သစ္စာစကား

## မှန်သောသစ္စာစကားသည် မပျောက်ပျက်နိုင်

မှန်သောစကားသည် ပျောက်ပျက်မသွားချေ။ ဤကား ရှေးအစဉ်အလာဖြစ်နေသည့် သဘာဝတရားပင်ဖြစ်၏။ သူတော်ကောင်းတို့သည် မှန်သောအကျိုးအကြောင်း၌ ရပ်တည် နေကြလေသည်။

သုတ္တနိပါတ်၊ သုဘာသိတသုတ်။

## စကားအရာ အင်္ဂါလေးတန်

ကောင်းစွာပြောဆိုအပ်သောစကားကို ပဌမအင်္ဂါဟု ဆိုအပ်၏။ တရားနှင့်စပ်သောစကားကို ပြောဆိုရာ၏။ တရားနှင့်မစပ်သောစကားကို မပြောဆိုရာ၊ ဤကား ဒုတိယအင်္ဂါဖြစ်၏။ ချစ်ဖွယ်သော စကားကို ပြောဆိုရာ၏။ မုန်းဖွယ်သောစကားကို မပြောဆိုရာ၊ ဤကား တတိယအင်္ဂါဖြစ်၏။ ဟုတ်မှန်သောစကားကို ပြောဆိုရာ၏။ မဟုတ်မမှန်သောစကားကို မပြောဆိုရာ။ ဤကား စတုတ္ထအင်္ဂါ ဖြစ်၏။

သုတ္တနိပါတ်၊ သုဘာသိတသုတ်။

## လုပ်ပြီးမှ ပြောပါ

အကြင်အမှုကိုပြုလုပ်၏။ ထိုမိမိပြုလုပ်သောအမှုကိုသာ ပြောရာ၏။ အကြင်အမှုကို မပြု၊ ထိုမပြုသောအမှုကို မပြောရာ၊ မလုပ်ဘဲပြောသူကို ပညာရှိများက အထင်သေးကြသည်။

ဇာတက၊ ဟိရီဇာတ် ၃၆၃။

## မုသား

မုသားပြောဖို့ မယုက်သောသူ မပြုဘဲနေမည့် မကောင်းမှုဟူ၍ တစ်ခုမျှမရှိဟု ငါဆို၏။ သို့ဖြစ်၍ မဟုတ်မမှန်သောစကားကို ရယ်စရာအဖြစ်ဖြင့်သော်မျှ မပြောတော့အံ့ဟု ဆုံးဖြတ်လိုက်နာရမည်။

မဇ္ဈိမပဏ္ဏာသ၊ အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်။

## ကောလာဟလ

သူတစ်ပါးပြောစကား (ကောလာဟလ)ကို မယုံစားကြနှင့်၊ သူတစ်ပါးပြောသောစကားကို ယုံမိသည့်အတွက် ယုန်ငယ်တစ်ကောင်၏ စကားကြောင့် သားကောင်အများ ပျက်စီးခဲ့ဖူးသည်။

ဇာတက၊ ကုဏာလဇာတ် ၅၃၈။

### စကား

ပညာရှိသည် အကယ်၍ စကားပြောလိုလျှင် ပြောသင့်သောအချိန်အခါ ဟုတ် မဟုတ်ကို ဆင်ခြင်၍ တရား၌ရပ်တည်လျက် တရားနှင့်စပ်သောစကားကို သူတော်သူမြတ် (လူကြီးလူကောင်း) တို့၏ အသုံးအနှုန်းမျိုးဖြင့် ပြောဆိုရာ၏။

တိကအင်္ဂုတ္တိုရ်၊ ကထာဝတ္ထုသုတ်။

### ကောင်းသောစကား

ရဟန်းတို့၊ အင်္ဂါငါးပါးနှင့် ညီညွတ်သော စကားသည် ကောင်းသောစကားဖြစ်၏။ မကောင်းသော စကားမဟုတ်၊ အပြစ်မရှိသောစကားဖြစ်၏။ ပညာရှိတို့ မကဲ့ရဲ့အပ်သောစကားဖြစ်၏။ အဘယ် အင်္ဂါငါးပါးနည်းဆိုသော် -

၁။ ပြောသင့်သောအခါ၌ ပြောဆို၏။

၂။ မှန်ကန်စွာ ပြောဆို၏။

၃။ သိမ်မွေ့စွာ ပြောဆို၏။

၄။ အကျိုးစီးပွားနှင့်စပ်၍ ပြောဆို၏။

၅။ မေတ္တာစိတ်ဖြင့် ပြောဆို၏။

ဤ ငါးပါးတို့ပင်ဖြစ်၏။

ပဉ္စကအင်္ဂုတ္တိုရ်၊ ဝါစာသုတ်။

### စကားများခြင်းအပြစ်

ရဟန်းတို့၊ စကားများခြင်း၌ အပြစ် ငါးမျိုးရှိ၏။ အဘယ်ငါးမျိုးနည်းဆိုသော် -

၁။ မဟုတ်မမှန်သောစကားကို ပြောမိတတ်၏။

၂။ ကုန်းတိုက်စကားကို ပြောမိတတ်၏။

၃။ ကြမ်းတမ်းသောစကားကို ပြောမိတတ်၏။

၄။ အနှစ်မဲ့သောစကားကို ပြောမိတတ်၏။

၅။ သေလွန်သောအခါ အပါယ်ကျရ၏။

ဤ ငါးမျိုးပင်ဖြစ်၏။

ပဉ္စကအင်္ဂုတ္တိုရ်၊ ဗဟုဘာဏိသုတ်။

## ဆွေးနွေးလျှင်

ညာရှိသည် ဆန့်ကျင်ဘက်မလုပ်ဘဲ၊ မာနထောင်လွှားခြင်းလည်းမရှိဘဲ တည်ငြိမ်သော စိတ်ကို ထား၍ ဂုဏ်ပြိုင်ခြင်း၊ နိုင်ထက်စီးနင်းပြုမူခြင်း၊ ငြူစူခြင်းလည်းမရှိဘဲ မိမိကောင်းစွာသိသော အချက်ကို ပြောဆိုရာ၏။ တစ်ဖက်သားက ကောင်းမွန်စွာ ပြောဆိုသောစကားကိုလည်း ဝမ်းမြောက် လက်ခံရာ၏။ ကောင်းမွန်စွာ ပြောဆိုခြင်းမဟုတ်သည်တိုင်အောင် ကြိမ်းမောင်းခြင်းမပြုရာ။

သူတစ်ပါးအား ချုပ်ချယ်ခြင်းကိုလည်း မပြုရာ၊ စကားအနည်းငယ် ချွတ်ချော် သွားသည်ကိုလည်း အပြစ်မယူရာ၊ အကိုးအကားတွေ များစွာ ရွတ်၍လည်း မလွှမ်းမိုးရာ၊ ယုတ္တိယုတ္တာပြ၍လည်း မဖိနှိပ်ရာ၊ အမှန်အမှား ရောထွေးနေသောစကားကိုလည်း မပြောရာ။

တိကအင်္ဂုတ္တိုရ်၊ ကထာဝတ္ထုသုတ်။

# ချစ်သူ

## အချစ်ကြောင့်

ချစ်ခြင်းကြောင့် သောကဖြစ်ရ၏။ ချစ်ခြင်းကြောင့် ဘေးတွေ့ရ၏။ ချစ်ခြင်းမှ လွတ်ကင်းသောသူမှာ သောကဖြစ်ရတော့မည် မဟုတ်၊ ဘေးတွေ့မှုကား အဘယ်မှာ ရှိတော့အံ့နည်း။

ဓမ္မပဒ၊ ပိယဝဂ်။

## ချစ်သူကိုရှောင်

ချစ်သောသူတို့နှင့် အတူတကွပေါင်းဖက်မနေရာ၊ မချစ်သောသူတို့နှင့်ကား တစ်ခဏမျှ အတူတကွ ပေါင်းဖက်မနေရာ၊ အကြောင်းမူကား ချစ်သောသူကို မမြင်ရခြင်းသည် ဆင်းရဲ၏။ မချစ်သောသူကို တွေ့မြင်နေရခြင်းသည်လည်း ဆင်းရဲ၏။ သို့ဖြစ်၍ အချစ်ကိုရှောင်သင့်၏။ ချစ်သူနှင့် ကွဲရခြင်းသည် ဆိုးဝါး၏။ ချစ်ခြင်း မုန်းခြင်းမရှိသောသူတို့၌ ရစ်နှောင်ထုံးဖွဲ့မှု မရှိပေ။

ဓမ္မပဒ၊ ပိယဝဂ်။

## အချစ်ဆုံး

အရပ်မျက်နှာဟူသမျှ၌ စိတ်ဖြင့် စူးစမ်းရှာဖွေသော်လည်း မိမိကိုယ်ထက်ပို၍ ချစ်သောသူဟူ၍ ဘယ်မှာမျှမတွေ့ရချေ။ ဤသို့လျှင် သတ္တဝါအားလုံးသည် အသီးသီးအခြားသူထက် မိမိကိုယ်ကိုသာ ပို၍ ချစ်ကြ၏။ သို့ဖြစ်၍ အကျိုးစီးပွားကို အလိုရှိသောသူသည် အခြားသူတို့ကို မညှဉ်းဆဲ မသတ်ဖြတ်ရာ။

ဥဒါန်း၊ သောဏဝဂ်။

## သဘာဝ၏မျက်လှည့်

အမှုမဲ့ အမှတ်မဲ့နေသူကို သာယာဖွယ် မဟုတ်သော သဘောက သာယာဖွယ် အနေအားဖြင့်၊ ချစ်ဖွယ်မဟုတ်သော သဘောက ချစ်စဖွယ်အနေအထားဖြင့် ဆင်းရဲသည့်သဘောက ချမ်းသာသည့်အနေအထားဖြင့် လွှမ်းမိုးဖိစီးတတ်လေသည်။

ဥဒါန်း၊ သုပ္ပဝါသာသုတ်။

## တစ်ကိုယ်တည်း

တစ်စုံတစ်ယောက်နှင့် ပေါင်းသင်း ရောယှက်နေသူအား ချစ်ခင်မှုနှင့် အချစ်၏ နောက်ဆက်တွဲ ဒုက္ခများ ဖြစ်လာတတ်လေသည်။ သို့ဖြစ်၍ ချစ်ခင်မှုကြောင့် ဖြစ်သောအပြစ်ကို မြင်သောသူသည် ကြံ့ချိုပမာ တစ်ကိုယ်တည်း ကျင့်ရာ၏။

သုတ္တနိပါတ်၊ ခဂ္ဂဝိသာဏသုတ်။

## ခင်မင်ပြစ်

မိတ်ဆွေများ၊ ချစ်ကျွမ်းဝင်သူများ၏ အလိုကို အမြဲလိုက်ကာ ထိုသူတို့အပေါ် ခင်မင်သည့်စိတ်ဖြင့် ရစ်ပတ်ဖွဲ့နှောင်ထားသောသူသည် မိမိ၏အကျိုးစီးပွား ဆုတ်ယုတ်တတ်၏။ သို့ဖြစ်၍ ပေါင်းသင်း ဆက်ဆံမှုကြောင့်ဖြစ်သော ဤဘေးကို မြင်သဖြင့် ကြံ့ချိုပမာ တစ်ကိုယ်တည်း ကျင့်ရာ၏။

သုတ္တနိပါတ်၊ ခဂ္ဂဝိသာဏသုတ်။

## မြှုံးမိ ငါး

ကာမဂုဏ်ကြောင့် ကန်းနေကြကုန်သော တဏှာပိုက်ကွန်တွင် အုပ်မိကာ တဏှာဖြင့် ဖုံးပိတ်ထားခြင်းခံနေရကုန်သော သတ္တဝါတို့သည် မာရ်နတ်၏ကျော့ကွင်းတွင် မိနေကြကုန်လျက် မြှုံးဝက ငါးကဲ့သို့လည်းကောင်း၊ မိခင်နောက် တကောက်ကောက် လိုက်နေသော နွားသူငယ်ကဲ့သို့ လည်းကောင်း အိုခြင်း၊ သေခြင်း နောက်သို့ တကောက်ကောက် လိုက်ပါနေကြရလေသည်။

ဥဒါန်း၊ ဒုတိယသတ္တသုတ်။

## ကိုယ့်တဏှာနှင့် ကိုယ်ပတ်

ပင့်ကူသည် မိမိထုတ်လုပ်သည့် ပင့်ကူအိမ်၌ မိနေသကဲ့သို့ ရာဂဖြင့် တပ်မက်သော သူတို့သည် မိမိပြုလုပ်သည့်တဏှာအလျှင်၌ မိနေကြကုန်၏။ ပညာရှိတို့ကား ထိုတဏှာကို ဖြတ်ကာ ငဲ့ကွက်ခြင်းမရှိဘဲ ဒုက္ခကို ပယ်စွန့်နိုင်ကြလေသည်။

ဓမ္မပဒ၊ တဏှာဝဂ်။

# အပေါင်းအသင်း

## အပေါင်းအသင်းကြောင့်

မိမိကိုယ်တိုင်က မကောင်းသောအမှုကို မပြုသော်လည်း မကောင်းသော အမှုကိုပြုသော သူနှင့် ပေါင်းသင်းလျှင် မကောင်းသော အမှုပြုသည့်ကိစ္စ၌ အထင်မှားခံရတတ်၏။ နာမည် ဂုဏ်သတင်းလည်း ပျက်တတ်၏။

ဣတိဝုတ်၊ သုခပတ္ထနာသုတ်။

## တံငါနားနီး တံငါ၊ မုဆိုးနားနီး မုဆိုး

လူကောင်း(သို့မဟုတ်) လူဆိုးကို မိတ်ဆွေဖွဲ့၍ ပေါင်းသင်းမှီဝဲသောသူသည် မိမိပေါင်းသင်း မှီဝဲသောသူကဲ့သို့ပင် ဖြစ်တတ်၏။ မှန်၏။ တစ်စုံတစ်ယောက်နှင့် အတူနေလျှင် ထိုသူနှင့် အလားတူဖြစ်သွားတတ်လေသည်။

ဣတိဝုတ်၊ သုခပတ္ထနာသုတ်။

## ကူးစက်တတ်သောသူ

အဆိပ်လူးထားသောမြားသည် မြားစည်းရှိ အဆိပ်မလူးသောအခြားမြားတို့ကို အဆိပ်ဖြင့် ပေကျံစေသကဲ့သို့ မှီဝဲဆည်းကပ်ခံရသော လူယုတ်မာသည် မိမိအား မှီဝဲဆည်းကပ်သူကို လည်းကောင်း၊ ပေါင်းသင်းထိတွေ့ခံရသော သူယုတ်မာသည် မိမိအား ပေါင်းသင်းထိတွေ့သူကို လည်းကောင်း၊ ယုတ်မာသောအကျင့်ဆိုး ပေကျံမည်ကိုကြောက်လျှင် လူယုတ်မာကို အပေါင်းအသင်း မလုပ်ရာ။

ဣတိဝုတ်၊ သုခပတ္ထနာသုတ်။

## ကိုယ့်ထက်သာသူကို ပေါင်း

ကိုယ့်အောက် ယုတ်ညံ့သူကို ပေါင်းသောသူသည် ဆုတ်ယုတ်ပျက်စီးတတ်၏။ ကိုယ်နှင့် တန်းတူကို ပေါင်းသောသူသည် မဆုတ်ယုတ်၊ တိုးတက်စရာရှိဟု ဆိုနိုင်၏။ ကိုယ့်ထက်သာသူကို

ပေါင်းသောသူကား တစ်ဆင့်ထက် တစ်ဆင့် ကြီးမြင့်တိုးတက်လေသည်။ သို့ဖြစ်ရာ မိမိထက် မြင့်မြတ်သူကို ပေါင်းသင်းဆည်းကပ်ကြကုန်လော့။

ဇာတက၊ မနောဇ ဇာတ် ၃၉၇။

## သူတော်ကောင်းကို ခင်မင်ပါ

သူတော်ကောင်းကို မခင်မင်ဘဲ သူယုတ်မာကို ချစ်ခင်ကာ သူယုတ်မာတို့၏ တရားကို နှစ်သက်ခြင်းသည် ပျက်စီးခြင်း၏အကြောင်း ဖြစ်၏။

သုတ္တနိပါတ်၊ ပရာဘဝသုတ်။

## လူယုတ်မာကို ရှောင်

အကျိုးမဲ့ဖြစ်အောင်ညွှန်ကြားတတ်လျက် မကောင်းမှုဘက်၌ ဝင်စားကာ ကာမဂုဏ်ကို လိုက်စား၍ ကုသိုလ်ကောင်းမှုကို မေ့လျော့နေသည့် ယုတ်မာသော အပေါင်းအသင်းကို ရှောင်ကြဉ်ရာ၏။

သုတ္တနိပါတ်၊ ခဂ္ဂဝိသာဏသုတ်။

## စိန်ကဲ ရွှေကဲထက် လူကဲခတ် ခက်သည်

အကျင့်သီလရှိ မရှိကို ပေါင်းသင်း ဆက်ဆံကြည့်မှ သိရသည်။ ခေတ္တခဏ ပေါင်းသင်း ကြည့်ရုံနှင့်လည်း မသိနိုင်၊ ကြာရှည်စွာ ပေါင်းသင်းမှ သိနိုင်သည်။ သတိမထားလျှင်လည်း မသိနိုင်၊ သတိထားမှ သိနိုင်သည်။ ပညာမရှိလျှင်လည်း မသိနိုင်၊ ပညာရှိမှ သိနိုင်သည်။

ကောသလသံယုတ်။

## လမ်းသရဲ

မကောင်းသောသူကို ပေါင်းသင်းလေ့ရှိသောသူသည် သူ့အပေါင်းအသင်းများက ကစားသမားများ၊ မိန်းမလိုက်စားသူများ၊ အရက်သမားများ၊ ကောက်ကျစ်စဉ်းလဲသူများ၊ လူလိမ် လူကောက်များ၊ တစ်ဖက်သားကို နိုင်ထက်စီးနင်းပြုမူတတ်သူများချည်း ဖြစ်နေသဖြင့် သူကိုယ်တိုင်

အရက်သမား၊ ဖဲသမား၊ မိန်းမလိုက်စားသူ၊ ကောက်ကျစ်စဉ်းလဲသူ လူဆိုး လူမိုက် ဖြစ်သွား တတ်လေသည်။

သုတ်ပါထေယျ၊ သိင်္ဂါလောဝါဒသုတ်။

## လူ့ ကျီးအာသီး

အပေါ်ယံ အသွင်အပြင်မြင်ရုံနှင့် လူကောင်းဟုတ် မဟုတ်ကို သိဖို့မလွယ်၊ ခဏမျှ တွေ့ရုံဖြင့် အကျွမ်းမဝင်ရာ၊ လောက၌ ကိုယ်နှုတ်နလုံး မစောင့်စည်းဘဲ စောင့်စည်းသည့်အသွင်ဖြင့် ဟန်လုပ်နေကြသူတွေ များစွာရှိလေသည်။

ကောသလသံယုတ်။

## လူကြီးလူကောင်း အတု

ရွံ့ကိုလုပ်ထားသော နားတောင်းကဲ့သို့ လည်းကောင်း၊ ရွှေရည်စိမ်ထားသော နစ်ပြားတန် ကြေးနားကပ်ကဲ့သို့ လည်းကောင်း အတွင်းကမစင်ကြယ်ဘဲ ဂုဏ်ပကာသန အဆောင်အယောင် တို့ဖြင့် ဖုံးကာ အပြင်ပန်းအားဖြင့် လူကောင်း သူကောင်းလုပ်နေကြသူတွေ လောက၌ များစွာ ရှိလေသည်။

ကောသလသံယုတ်။

## သူတော်ကောင်းနှင့်ပေါင်းလျှင် အရှုံးမရှိ

သူတော်ကောင်းနှင့်သာ ပေါင်းပါ၊ သူတော်ကောင်းတို့နှင့် အကျွမ်းတဝင်နေပါ၊ သူတော်ကောင်းတို့၏ တရားကို သိရခြင်းသည် ဖြတ်၏။ အရှုံးမရှိချေ။

ဇာတက၊ မဟာသုတသောမဇာတ် ၅၃၇။

## အဝတ်ဖုံးထားသည့် ဓား

သူယုတ်မာ သဘောထားမျိုး ရှိသော၊ မြဲမြံခိုင်ခံ့သော စကားလည်းမရှိသော၊ အဝတ်ဖြင့် ဖုံးထားသည့် ဓားနှင့် တူသော၊ လူတိုင်းကို ညှင်းဆဲတတ်သောသူကို အကျွမ်းမဝင်ရာ။

ဇာတက၊ ကက္ကုဋဇာတ် ၄၄၈။

## သူတော်ကောင်းနှင့်ပေါင်းပါ

သူတော်ကောင်းနှင့် တစ်ကြိမ်လောက် ပေါင်းသင်းမိလျှင် ထိုပေါင်းသင်းမှုက မိမိကို အကျိုးပြုလိမ့်မည်။ သူယုတ်မာတို့နှင့် အကြိမ်များစွာ ပေါင်းသင်းသော်လည်း ထိုပေါင်းသင်းမှုက မိမိကို အကျိုးပြုလိမ့်မည်မဟုတ်။

ဇာတက၊ မဟာသုတသောမဇာတ် ၅၃၇။

## ဟန်ဆောင်သော မိတ်ဆွေ

စိတ်ထဲက မပါဘဲ အပေါ်ယံ ပါးစပ်ဖျားဖြင့် စကားလှအောင် သုံးလျက် မိတ်ဆွေ ဟန်ဆောင်ကာ ညှင်းဆဲဖို့ကိုသာ ရှာနေသောသူကို အကျွမ်းမဝင်ရာ။

ဇာတက၊ ကက္ကုဋဇာတ် ၄၄၈။

## မိတ် ဆွေးမြည့်ကြောင်း သုံးခု

အမြဲ ပူးပူးကပ်ကပ် ပေါင်းသင်းလွန်းသောကြောင့် လည်းကောင်း၊ မပေါင်းသင်းဘဲ ကင်းကွာလွန်းသောကြောင့် လည်းကောင်း၊ မတောင်းထိုက်သောအခါမျိုး၌ သူနှစ်သက်သော ပစ္စည်းကို တောင်းသောကြောင့် လည်းကောင်း ဤအကြောင်းသုံးမျိုးကြောင့် ခင်မင်မှုဆွေးမြည့် ပျက်ပြယ်သွားတတ်သည်။

ထို့ကြောင့် အမြဲမပြတ်လည်း သူတို့ထံသို့မသွားရာ၊ မသွားရောက်ဘဲ အချိန်ကြာကြာ ကင်းကွာ၍လည်း မနေရာ၊ လိုချင်စရာရှိလျှင် တောင်းထိုက်သောအခါကို ကြည့်၍ တောင်းရာ၏။ ဤသို့ လိုက်နာပြုကျင့်လျှင် ခင်မင်မှု မဆွေးမြည့် မပျက်စီးနိုင်ချေ။

မဟာဗောဓိဇာတ် ၅၂၀။

## နောက်ကျောကို ဓားနှင့်ထိုးသူ

ချစ်လွယ် မုန်းလွယ်သောမိန်းမကိုဖြစ်စေ၊ ယောကျ်ားကိုဖြစ်စေ အကျွမ်းမဝင်ရာ၊ တကယ်ပင် ခင်မင်သည်ဟု ထင်ရအောင် နည်းအမျိုးမျိုးဖြင့် အရောတဝင်နေပြီး ကိုယ့်ကို အန္တရာယ်ပြုတတ်သောသူကိုလည်း အကျွမ်းမဝင်ရာ။

ဇာတက၊ ကက္ကုဋ္ဌဇာတ် ၄၄၈။

## မိတ်ဆွေကောင်း အရေးကြီးသည်

အာနန္ဒာ၊ မိတ်ဆွေကောင်းရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်းရှိသည့်အဖြစ်၊ အပေါင်းအသင်းကောင်းတို့၌ ကိုင်းရှိုင်းသည့်အဖြစ်သည် မြတ်သောအကျင့်ကို ကျင့်ရာ၌ အလုံးစုံ အကျိုးပြီး၏။ အာနန္ဒာ၊ ငါဘုရား တည်းဟူသော မိတ်ဆွေကောင်းကို အကြောင်းပြု၍ ပဋိသန္ဓေနေခြင်းသဘော ရှိသော သတ္တဝါတို့သည် ပဋိသန္ဓေနေခြင်းမှ လွတ်မြောက်ကုန်၏။ အိုခြင်းသဘောရှိသော သတ္တဝါတို့သည် အိုခြင်းမှ လွတ်မြောက်ကုန်၏။ သေခြင်းသဘောရှိသော သတ္တဝါတို့သည် သေခြင်းမှ လွတ်မြောက်ကုန်၏။ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ခြင်းမှ လွတ်မြောက်ကုန်၏။

မဟာဝဂ္ဂသံယုတ်ပါဠိတော်။

## မိတ်ဆွေ တု

အရှက်မှာကမ်းကုန်နေသော မိတ်ဆွေဖြစ်မှုကို စက်ဆုပ်သော ကျွန်ုပ် သင့်မိတ်ဆွေပါဟု ပါးစပ်ဖျားကသာပြော၍ လက်မပါသော လူမျိုးကို မိမိ၏မိတ်ဆွေ မဟုတ်ဟု သိရာ၏။

ဟိရိဇာတ် ၃၆၃။

## လူ့အကာ

အဆန်မပါသည့် ဗလာလက်အုပ်ကို ချီမြှောက်ကာ မည်သည့်ဥစ္စာကို ပေးမည်၊ မည်သည့်အမှုကို ဆောင်ရွက်ပါမည်ဟု ပါးစပ်ဖျားကလေးက ဝါစာကမာ ပြောတတ်သူကို အကျွမ်းမဝင်ရာ၊ အရှက်အကြောက်ဟူသော အနှစ်သာရကင်းသည့် လူ့အကာကိုလည်း မကျွမ်းမဝင်ရာ။

ဇာတက၊ ကက္ကုဋ္ဌဇာတ် ၄၄၈။

## မိတ်ဆွေ အင်္ဂါ

ရဟန်းတို့၊ အင်္ဂါခုနစ်ပါးနှင့်ညီညွတ်သော မိတ်ဆွေသည် ပေါင်းသင်းထိုက်သောမိတ်ဆွေ ဖြစ်၏။ အဘယ်ခုနစ်ပါးနည်း ဟူမူ -

၁။ ပေးနိုင်ခဲသောအရာကို ပေး၏။

၂။ မိမိအတွက် ပြုနိုင်ခဲသော ကိစ္စကို ပြုလုပ်ဆောင်ရွက်၏။

၃။ မိမိပေါ်သည်းခံနိုင်ခဲသော အချက်ကို သည်းခံ၏။

၄။ ဘယ်သူ့ကိုမျှ မပြောသည့် သူ၏လျှို့ဝှက်ချက်ကို မိမိအား ပြော၏။

၅။ မိမိ၏လျှို့ဝှက်ချက်ကို သူသိသော်လည်း ဘယ်သူ့ကိုမျှ မပြောဘဲ လျှို့ဝှက်ထား၏။

၆။ မိမိ၌ ဘေးရန်အရေးကိစ္စကြုံသောအခါ စွန့်ပစ်၍မသွား။

၇။ မိမိ၌ ဥစ္စာစည်းစိမ် ဂုဏ်သိမ်ပျက်စီးသောအခါ မထီမဲ့မြင် မပြု။

ဤ ခုနစ်ပါးတို့ပင်တည်း။

သတ္တ၊ အင်္ဂုတ္တိုရ်။

## မိတ်ဆွေ စစ်

ကြားလူက ကုန်းတိုက်သောစကားကို အဟုတ်မှတ်ကာ ယုံကြည်လျှင် မိတ်ဆွေအဖြစ် ပျက်တတ်၏။ ရန်လည်းများစွာပွားတတ်၏။ အကြင်သူသည် အစဉ်သတိထားကာ မိတ်ဆွေအဖြစ် မပျက်အောင် ဆောင်ရွက်၏။ မိတ်ပျက်ရခြင်းအကျိုးကို ရှု့မုန်း၏။ ကွဲပြားတတ်သည့်အပေါက်အစကို မျက်ခြည်မပြတ် ကြည့်နေ၏။ ထိုသူကား မိတ်ဆွေစစ်မည်၏။ သားသည်မိခင်၏ရင်ခွင်၌ စိတ်ချလက်ချ အိပ်သကဲ့သို့သော မိတ်ဆွေမျိုး၏ ရင်ခွင့်၌ စိတ်ချလက်ချ အိပ်နိုင်၏။ ထိုမိတ်ဆွေမျိုးကား ကြားလူ၏စကားကြောင့် မိတ်မပျက်ချေ။

ဝဏ္ဏာရောဟဇာတ် ၃၆၁။

## မိတ်ဆွေဟုတ် မဟုတ် သိရန်

တွေ့ဆုံသောအခါ ပြုံးရွှင်မှုကိုမပြ၊ မိမိကခေါ်ငင် နှုတ်ဆက်သည်ကိုလည်း ဝမ်းသာအယ်လဲမရှိ၊ မိမိကို တည့်တည့်မကြည့်ဘဲ မျက်နှာကို လွှဲထားတတ်၏။ မိမိ၏ပြုလုပ်မှု ပြောဆိုမှုကို လိုက်လိုက်လျောလျော မလုပ်ဘဲ ဆန့်ကျင်၏။ ဤသည်တို့ကား မိတ်ဆွေ မဟုတ်ကြောင်း သိရန် အခြင်းအရာများ ဖြစ်သည်။ ပညာရှိသည် ဤအခြင်းအရာတို့ကို မြင်ရကြားရလျှင် မိတ်ဆွေမဟုတ်ဟု သိရာ၏။

မိတ္တာမိတ္တဇာတ် ၁၉၇။

## မိတ်ဆွေ သူငယ်ချင်း

ခုနစ်ဖဝါး အတူသွားဖူးရုံဖြင့် မိတ်ဆွေဖြစ်၏။ တစ်ဆယ့်နှစ်ရက် ကြာအောင် အတူပေါင်းဖက်ဖူးလျှင် အပေါင်းအဖော်ဖြစ်၏။ တစ်ဆယ့်ငါးရက် ကြာအောင် အတူပေါင်းဖက် ဖူးလျှင်ကား ဆွေမျိုးနှင့် တူ၏။ ဆယ့်ငါးရက်ထက် အလွန် အတူပေါင်းဖက်ဖူးလျှင်ကား မိမိနှင့် ထပ်တူဖြစ်လေသည်။

ကာဠကဏ္ဏိဇာတ် ၈၃။

## ဒေါသ

### ဒေါသ

ဒေါသကြီးသောသူသည် ရုပ်ဆိုးတတ်၏။ ဆင်းဆင်းရဲရဲလည်း နေရ၏။ ထို့ပြင် အကျိုးရှိသည် ထင်၍ ယူဆောင်လျက် အကျိုးမရှိသည်ကို ရတတ်၏။

အမျက်ဒေါသယစ်မူးနေသောသူသည် အပေါင်းအသင်းမရှိသည့်အဖြစ်သို့ ရောက်တတ်၏။ ဒေါသကြီးသူကို ဆွေမျိုးမိတ်သင်္ဂဟ ချစ်ကျွမ်းဝင်သော သူတို့က ရှောင်တတ်သည်။

အမျက်ဒေါသသည် အကျိုးမဲ့ကို ဖြစ်စေတတ်၏။ အမျက်ဒေါသသည် စိတ်ကို ဖျက်ဆီးတတ်၏။ လူမိုက်များသည် မိမိစိတ်အတွင်း၌ပင် ဖြစ်လာသည့် အမျက်ဒေါသတည်းဟူသော အကျိုးမဲ့ဖြစ်စေတတ်သည့်ဘေး၊ စိတ်ကို ဖျက်ဆီးတတ်သည့်ဘေးကို မသိရှာလေ။

အမျက်ထွက်သောသူသည် အကျိုးကိုလည်းမသိ၊ အမျက်ထွက်သောသူသည် အကြောင်းကိုလည်း မမြင်၊ လူသည် အမျက်ဒေါသ နှိပ်စက်ခံရသောအခါ မှောင်ကြီး ကျလာတတ်လေ၏။

ဒေါသကြီးသောသူသည် ခက်သောအမှုကို လွယ်သည်ဟု မှားယွင်းထင်မြင်တတ်၏။ ဒေါသပြေသောအခါ (မှားမှန်းကိုသိသဖြင့်) မီးလောင်ခံရသကဲ့သို့ ပူပန်ရလေ၏။

လူသားသည် မိခင်က မွေးသောကြောင့် ဤလောကကို မြင်ရခြင်းဖြစ်၏။ မိခင်သည် မိမိအား အသက်ပေးသူဖြစ်လျက် ထိုအသက်ပေးသူမိခင်ကိုပင် ဒေါသကြီးသောလူမိုက်သည် သတ်၏။

သတ္တဝါတို့သည်အရာရာ၌ မိမိကိုယ်နှင့် နှိုင်းစာတတ်ကြ၏။ မိမိကိုယ်ကို လွန်စွာချစ်ကြ၏။ အမျက်ထွက်သောသူသည် အကြောင်းအမျိုးမျိုးတို့၌ တွေဝေသောကြောင့် မိမိကိုယ်ကိုပင် အကြောင်း အမျိုးမျိုးကြောင့် သတ်လေသည်။

မိမိကိုယ်ကို ဓားဖြင့်လည်းကောင်း သတ်၏။ အဆိပ်သောက်၍ သတ်၏။ ကြိုးဆွဲချ၍ သတ်၏။ တောင်ပေါ်မှ သော်လည်းကောင်း၊ ချောက်ထဲသို့သော်လည်းကောင်း ခုန်ချ၍ သတ်၏။ မိမိကိုယ်ကို သေကြောင်းကြံမှုတို့ကို ပြုနေလျက် အကျိုးစီးပွားကို ဖျက်ဆီးတတ်သည့်အမျက်ဒေါသ၏ ပျက်စီးကြောင်းဖြစ်ပုံကို မသိကြချေ။

ဤစိတ်ဆိုးမှုဒေါသတရားသည် အမျက်ထွက်မှု ကောခအသွင်ဖြင့် ဖြစ်၏။ နလုံးအိမ်သည် ကျော့ကွင်းပင် ဖြစ်၏။ ထိုဒေါသကို အသိဉာဏ်လုံ့လ ဝီရိယအမြင်မှန်တို့ဖြင့် ဆုံးမကာ ပယ်ဖျောက်ရာ၏။

သတ္တအင်္ဂုတ္တိုရ်၊ ကောဓနသုတ်။

## အမျက်

သည်းမခံခြင်းကြောင့်ဖြစ်သော အမျက်ဒေါသသည် ပထမနည်းနည်းသာဖြစ်၍ နောက်ပြီး များများဖြစ်လာတတ်၏။ တစ်ဆင့်ထက်တစ်ဆင့် ပွားလာတတ်၏။ ကပ်ငြိခြင်းကိုပြုတတ်၏။ (မိမိအမျက်ထွက်သည့်သူကို ခွာမသွားစေဘဲ ဆဲရေးခြင်း စသည်ကို ပြုတတ်၏) များစွာသော ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှုကို ဖြစ်စေတတ်၏။ ထို့ကြောင့် အမျက်ထွက်ခြင်းကို ငါမနှစ်သက်ခြင်း ဖြစ်၏။

ကကဏ္ဍဇာတ် ၄၄၀။

## ဒေါသထွက်လျှင်

အမျက်ထွက်ပြီးနောက် ပြစ်မှား ကြမ်းတမ်းခြင်း လက္ခဏာရှိသော ဒေါသဖြင့် ပြစ်မှားသော သူသည် ရှန့်ရင်းကြမ်းတမ်းသော စကားကို ပြောဆိုတတ်၏။ ထို့နောက် ဆွဲငင်ခြင်း စသည်ဖြင့် ကိုယ်ထိလက်ရောက် ပြုမူတတ်၏။ ထို့နောက် လက်သီးဖြင့် ထိုးခြင်း၊ တုတ်ဖြင့် ရိုက်ခြင်း၊ ဓားဖြင့်ခုတ်ခြင်း ပြုလုပ်တတ်၏။ ထိုသို့ များသောအပြစ်ရှိသောကြောင့် ဒေါသကို ငါ မနှစ်သက်ခြင်း ဖြစ်၏။

ကကဏ္ဍဇာတ် ၄၄၀။

## စစ်တိုက်ခြင်းဖြင့် ငြိမ်းချမ်းရေး မရနိုင်

ငြိမ်းချမ်းရေးဟူသော အကျိုးတရားကို ဘုရင်ကိုယ်တိုင် ဦးစီး၍ စစ်တပ်ကြီးချီကာ တိုက်ခိုက်သော်လည်း မရနိုင်ပေ။ ငြိမ်းချမ်းရေးအကျိုးကို သည်းခံခြင်းတရား လက်ကိုင်ထားသော သူတော်ကောင်းသာ ရနိုင်လေသည်။ ရန်သူဟူသမျှသည် သည်းခံခြင်းအင်အားကြောင့်သာ ငြိမ်းကုန်၏။

သရဘင်္ဂဇာတ် ၅၂၂။

## အောင်နိုင်ခဲသော စစ်ပွဲ

အကြင်သူသည် အမျက်ထွက်သူကို ပြန်၍ အမျက်ထွက်၏။ ထိုသူသည်သာ အမျက်ထွက်သူကို ပြန်၍ အမျက်ထွက်ခြင်းကြောင့် သာ၍ မိုက်ရာကျ၏။ မိမိအား အမျက်ထွက်သူကို ပြန်၍ အမျက်မထွက်သောသူသည် အောင်နိုင်ခဲသော စစ်ပွဲကို အောင်သည်မည်၏။

သဂါထာဝဂ္ဂ၊ ဗြာဟ္မဏသံယုတ်၊ အက္ကောသသုတ်။

## သည်းခံခြင်းအကျိုး

ရဟန်းတို့၊ သည်းခံခြင်းအကျိုးငါးပါး ရှိ၏။ အဘယ်ငါးပါးနည်း ဆိုသော် -

၁။ လူအများ ချစ်ခင်၏။

၂။ ရန်မများ။

၃။ အပြစ်မများ။

၄။ မတွေမဝေ သေရ၏။

၅။ သေလွန်သောအခါ နတ်ရွာသုဂတိ လားရ၏။

ဤငါးပါးပင် ဖြစ်၏။

ပဉ္စကအင်္ဂုတ္တိုရ်၊ အက္ခန္တိသုတ်။

## သည်းခံခြင်းသာ အောင်နိုင်ခြင်း အစစ်

လူမိုက်သည် စကားအားဖြင့် ရန့်ရင်းကြမ်းတမ်းစွာ ပြောလိုက်ရသည်ကို ငါအောင်သည် ဟု မှတ်ထင်၏။ အမှန်ကား သည်းခံခြင်း၏ အကျိုးကျေးဇူးကိုသိသော ပညာရှိပုဂ္ဂိုလ်၏တုံ့ပြန်မပြောဘဲ သည်းခံနေခြင်းသည်သာလျှင် အောင်နိုင်ခြင်းအစစ် ဖြစ်၏။

သဂါထာဝဂ္ဂသံယုတ်။

## အမျက်ဒေါသကို ပယ်သတ်လျှင်

အမျက်ဒေါသ အာဃာတစိတ်ကို ပယ်သတ်လိုက်လျှင် ဘယ်အခါမျှ စိုးရိမ်သောက မဖြစ်ရတော့ပေ။ ကျေးဇူးချေဖျက်သည့် မကောင်းမှုကို ပယ်လိုက်ခြင်းကို သူတော်ကောင်းတို့ ချီးမွမ်းကုန်၏။ အယုတ်အလတ် အမြတ်မရွေး လူတန်းစား အားလုံးတို့က ရန့်ရင်းကြမ်းတမ်းစွာ ပြောဆိုသည်ကို သည်းခံရာ၏။ ယင်းသို့သည်းခံခြင်းကို မြတ်၏ဟု သူတော်ကောင်းတို့ ဆိုကြကုန်၏။

သရဘင်္ဂဇာတ် ၅၂၂။

## အိမ်ထောင်ဦးစီး
## နက်ဖြန်သန်ဘက် ရွှေ့မနေနှင့်

ယနေ့ ပြုလုပ်ရမည့်အမှုကို နက်ဖြန်မှလုပ်မည်ဟု ရွှေ့သောသူ၊ နက်ဖြန်ပြုလုပ်ရမည့် ကိစ္စကို သန်ဘက်ခါမှလုပ်မည်ဟု ရွှေ့ဆိုင်းသောသူသည် ထိုကိစ္စကို ပြုဖြစ်တော့မည် မဟုတ်ချေ။ ဤသို့အားဖြင့် ထိုသူသည် ထိုကိစ္စမှ ပေါ်ပေါက်လာသည့်အကျိုးကို မရလိုက်ဘဲ ဆုံးရှုံးရလေ၏။ သို့ဖြစ်၍ ဖြစ်ပေါ်လာမည့် ဆန္ဒကောင်းကလေးကို ဖျောက်ဖျက်မပစ်သင့်ပေ။

ဇာတက၊ ဟတ္ထိပါလဇာတ် ၅၁၉။

## အိမ်ထောင်ဦးစီးကောင်း

အိမ်ထောင်ဦးစီးတို့အဖို့ တရားသဖြင့် ပစ္စည်းရှာဖွေခြင်းသည် ကောင်း၏။ ရရှိသော ပစ္စည်းကို အများနှင့် ဝေမျှစားသုံးခြင်းသည် ကောင်း၏။ စီးပွားတက်သောအခါ အလွန်ဝမ်းမြောက် ခြေဖျားမထောက်ခြင်းသည် ကောင်း၏။ စီးပွားပျက်သောအခါ ဣန္ဒြေမပျက်ခြင်းသည် ကောင်း၏။

ဇာတက၊ ဣန္ဒြိယဇာတ် ၄၂၃။

## လုပ်စရာရှိတာ ယနေ့လုပ်

ပြုလုပ်ရမည့်အမှုကိစ္စကို ယနေ့ပင် အပူတပြင်းပြုလုပ်အပ်၏။ နက်ဖြန်ခါ သေမည် မသေမည်ကို ဘယ်သူသိနိုင်အံ့နည်း၊ စစ်သည်ဗိုလ်ပါပေါင်းများစွာရှိသော သေမင်းနှင့် ဘယ်နေ့မှာ တွေ့ရမည်ဟု ချိန်းချက်ထားခြင်းမရှိပေ။

ဉပရိပဏ္ဏာသ၊ ဘဒ္ဒေကရတ္တသုတ်။

## အသွားမတော် တစ်လှမ်း

အချိန်မတော် လည်ပတ်သောသူသည် မိမိ၏လုံခြုံရေးအတွက်လည်း စိတ်မချရ၊ အိမ်က သားမယားတို့၏ လုံခြုံရေးအတွက်လည်း စိတ်မချရ၊ ပစ္စည်းဉစ္စာတို့၏ လုံခြုံရေးအတွက်လည်း စိတ်မချရ၊ မှုခင်းကိစ္စဖြစ်ပေါ်လျှင် မသင်္ကာခံရတတ်၏။ မဟုတ်ဘဲနှင့် စွပ်စွဲခံရတတ်၏။ အချိန်မတော် လည်ပတ်ခြင်းသည် ဒုက္ခအမျိုးမျိုး၏ ရှေ့ပြေးပင်ဖြစ်၏။

သုတ်ပါထေယျ၊ သိင်္ဂါလောဝါဒသုတ်။

## ပြဿဒါး ရက်ရာဇာ ရွေးမနေနှင့်

နက္ခတ်ကောင်း မကောင်း တွက်ချက် စဉ်းစားနေသော လူမိုက်ကို အခွင့်အရေး အကျိုးစီးပွားများက ကျော်လွန်သွားလေသည်။ အကျိုးစီးပွားကို လိုချင်သူအတွက် အကျိုးရှိသော အလုပ်သည်ပင် နက္ခတ်ကောင်းဖြစ်၏။ ကောင်းကင်က ကြယ်တာရာတို့က ဘာလုပ်နိုင်ကြမည်နည်း။

ဇာတက၊ နက္ခတ္တဇာတ် ၄၉။

## လောကဓံကို ကြံ့ကြံ့ခံပါ

ချမ်းသာခြင်း ဆင်းရဲခြင်းစသော လောကဓံနှင့် တွေ့သည့်အခါ မတုန်လှုပ်ဘဲ၊ စိုးရိမ်သောကလည်း မဖြစ်ဘဲ တပ်မက်ခြင်း အမျက်ထွက်ခြင်း စသည်ဖြင့် စိတ်မှာ အညစ်အကြေး မတင်စေဘဲ ခေါင်းအေးအေးထားခြင်းသည် မြတ်သောမင်္ဂလာမည်၏။

သုတ္တနိပါတ်၊ မင်္ဂလသုတ်။

## အနိုင်ယူနည်း

အမျက်ဒေါသထွက်နေသောသူကို စိတ်မဆိုးဘဲနေခြင်းဖြင့် အနိုင်ယူရမည်။ လူကောင်း သူကောင်း မဟုတ်သူကို လူကောင်းသူကောင်းစိတ်ထားဖြင့် အနိုင်ယူရမည်။ နမြောဝန်တိုသော သူကို ပေးကမ်းခြင်းဖြင့် အနိုင်ယူရမည်။ လိမ်တတ်သောသူကို မှန်ကန်စွာပြောခြင်းဖြင့် အနိုင်ယူရမည်။

ဓမ္မပဒ၊ ကောဓဝဂ်။

## အောင်မြင်ခြင်းအစစ်

အောင်မြင်ပြီးနောက် တစ်ဖန်ပြန်၍ ရှုံးရသော အောင်မြင်ခြင်းသည် ကောင်းသော အောင်မြင်ခြင်း မဟုတ်။ အောင်မြင်ပြီးနောက် တစ်ဖန်ပြန်၍ မရှုံးရသောအောင်မြင်ခြင်းသာ ကောင်းသော အောင်မြင်ခြင်းဖြစ်သည်။

ဇာတက၊ ကုဒါလဇာတ် ၇၀။

## ဆင်ဆင်ခြင်ခြင်လုပ်

လုပ်စရာရှိလျှင် ဉာဏ်ဖြင့် ဆင်ဆင်ခြင်ခြင်လုပ်ရမည်၊ ပြောစရာရှိလျှင် ဉာဏ်ဖြင့် ဆင်ဆင်ခြင်ခြင်ပြောရမည်၊ ကြံစရာရှိလျှင် ဉာဏ်ဖြင့် ဆင်ဆင်ခြင်ခြင်ကြံရမည်။

မဇ္ဈိမပဏ္ဏာသ၊ အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်။

## ဖဲသမား

ဖဲသမားသည် နိုင်လျှင်လည်း ရှုံးသူ၏ ရန်ပြုခြင်းကို ခံရတတ်၏။ ရှုံးလျှင်စိတ်ဆင်းရဲရ၏။ လက်ရှိပစ္စည်းဥစ္စာ ပျက်စီးဆုံးပါးတတ်၏။ ပရိသတ်ဘောင်၌ သူ့စကားသည် အရာမရောက်၊ ဆွေမျိုး မိတ်သင်္ဂဟများကလည်း သူ့ကို လူရာမသွင်းကြ၊ အိမ်ထောင်ပြုရန်ကိစ္စ၌ သမီးရှင်များ ကလည်း ငြင်းပယ်တတ်၏။

သုတ်ပါထေယျ၊ သိင်္ဂါလောဝါဒသုတ်။

## မျှတစားပါ

ပစ္စည်းဥစ္စာများစွာ ရှိသောသူဖြစ်လျက် သူတစ်ပါးကိုမမျှတဘဲ မိမိတစ်ယောက်တည်း သုံးဆောင်ခြင်းသည် ပျက်စီးခြင်း၏အကြောင်း ဖြစ်၏။

သုတ္တနိပါတ်၊ ပရာဘဝသုတ်။

## စွတ်သောလက်ကို မခြောက်စေနှင့်

အကြင်သူ၏အိမ်၌ တစ်ညဥ့်မျှ တည်းခိုဖူးသည်ဖြစ်အံ့၊ ထမင်းတစ်လုတ် ရေတစ်မှုတ်မျှ စားသောက်ဖူးသည်ဖြစ်အံ့၊ ထိုသူအား အကျိုးမဲ့ဖြစ်စေရန် စိတ်ဖြင့်မျှလည်း မကြံစည် မပြုလုပ်ရာ၊ ဤသို့ ကျေးဇူးရှိဖူးသောသူကို အကျိုးမဲ့အောင် မပြုလုပ်ခြင်းသည် စွတ်သောလက်ကို မခြောက်စေခြင်း မည်၏။

ဝိဓုရဇာတ်တော်။

## ဆွေမျိုးတွေအပေါ် မမောက်မာနှင့်

အမျိုးမာန်ပစ္စည်းမာန် ခက်ထန်ပြီး မိမိဆွေမျိုးများကို မထီမဲ့မြင်ပြုခြင်းသည် ပျက်စီးခြင်း၏ အကြောင်းဖြစ်၏။

သုတ္တနိပါတ်၊ ပရာဘဝသုတ်။

## မဖြုန်းနှင့်

မိန်းမလိုက်စား၊ အရက်သောက်၊ ဖဲရိုက်ကာ ရသမျှကို ဖြုန်းတီးပစ်ခြင်းသည် ပျက်စီးခြင်း၏အကြောင်းဖြစ်၏။

သုတ္တနိပါတ်၊ ပရာဘဝသုတ်။

## ခြကိုပုံထား ပျားကိုပုံပြု ပစ္စည်းစု

ပျားကောင်ကလေးများက ပန်းဝတ်ရည်ကို စုပ်ယူကာ တဖြည်းဖြည်းပြုလုပ်သဖြင့် ပျားအုံကြီး ဖြစ်လာသကဲ့သို့ ခြကောင်ကလေးများက မြေကြီးများကို ကိုက်ချီကာ တဖြည်းဖြည်း စုပုံသဖြင့် တောင်ပို့ကြီး ဖြစ်လာသကဲ့သို့ ပစ္စည်းဥစ္စာစုမိအောင် တရားသဖြင့် ရှာဖွေဆည်းပူးရာ၏။

သုတ်ပါထေယျ၊ သိင်္ဂါလောဝါဒသုတ်။

## ကြွေးရှိလျှင်ဆပ်ပါ

ပိုက်ဆံချေးပြီး ကြွေးရှင်က တောင်းသောအခါ ရှောင်နေသူ သင့်ကြွေးငါ့မှာမရှိဟု ငြင်းဆိုသူသည် သူယုတ်။

သုတ္တနိပါတ်၊ ပရာဘဝသုတ်။

## အရိပ်လာမှာ နေပူကစောင့်

ချမ်းသာနှင့်ရင်းသဖြင့် ချမ်းသာသုခကို မရနိုင်၊ ဒုက္ခနှင့် ရင်းယူမှ ချမ်းသာသုခကို ရနိုင်သည်။

မဇ္ဈိမပဏ္ဏာသ၊ ဗောဓိရာဇကုမာရသုတ်။

## တစ်ကျပ်ရလျှင် တစ်မတ်စား

အိမ်ထောင်ဦးစီးသည် ပစ္စည်းဥစ္စာကို တရားသဖြင့် ရှာဖွေစုဆောင်း၍ ရရှိသော ပစ္စည်းဥစ္စာကို လေးပုံပုံကာ တစ်ပုံကို စားသုံးရာ၏။ နှစ်ပုံကို လုပ်ငန်းအတွက် အသုံးပြုရာ၏။ ကျန်တစ်ပုံကို အရေးရှိက ရနိုင်ရန် သိမ်းဆည်းထားရာ၏။

သုတ်ပါထေယျ၊ သိင်္ဂါလောဝါဒသုတ်။

## အလိမ္မာ

အလိမ္မာဆိုသော စကားတစ်ခွန်းသည် အဓိပ္ပာယ်အမျိုးမျိုးကို ဆောင်သည့် ပုဒ်ပေါင်းများစွာကို မှီသောစကားဖြစ်၏။ အလိမ္မာကို ကိုယ်ကျင့်တရားနှင့်တွဲကာ သည်းခံခြင်းနှင့် ဖြည့်စွက်ပေးလိုက်လျှင် မိတ်ဆွေတို့ကိုချမ်းသာအောင် စွမ်းဆောင်နိုင်၍ ရန်သူတို့ကို ဆင်းရဲဒုက္ခရောက်အောင် စွမ်းဆောင်နိုင်လေသည်။

ဇာတပဒဇာတ် ၂၃၈။

## မိဘကို ပစ်မထားနှင့်

အိုမင်းမစွမ်းဖြစ်နေသည့် မိအို ဖအိုတို့ကို ကျွေးမွေးပြုစုနိုင်သည့် အခြေအနေရှိလျက် မကျွေးမွေး မပြုစုသောသူသည် သူယုတ်။

သုတ္တနိပါတ်၊ ဝသလသုတ်။

## အကျင့်စာရိတ္တကောင်းဖို့ အရေးကြီးသည်

အမျိုးအနွယ်ကြီးမြင့်ခြင်း ရုပ်အဆင်းလှပခြင်းသည် အချည်းနှီးသာဖြစ်၏။ ကိုယ်ကျင့်သီလ ရှိခြင်းသာလျှင် မြတ်၏။ ကိုယ်ကျင့်သီလ ရှိခြင်းသာလျှင် မြတ်၏။ ကိုယ်ကျင့်သီလမရှိလျှင် တတ်ထားသော အတတ်ပညာမျှဖြင့် မကြီးပွားနိုင်။

သီလဝီမံသဇာတ် ၃၆၂။

## အလောတကြီး မလုပ်နှင့်

မစူးစမ်း မဆင်ခြင်ဘဲ အလောတကြီး ပြုလုပ်လျှင် ဟင်းရည်ပူကို မစူးစမ်းဘဲ သောက်လိုက်မိသကဲ့သို့ ထိုသူကို သူပြုသောအမှုတို့က ပူလောင်စေလိမ့်မည်။

သိင်္ဂါလဇာတ် ၁၅၂။

## အပေါက်ခြောက်ခု

လောက၌ စီးပွားဥစ္စာမတင်နိုင်သော အပေါက်ခြောက်ခုရှိ၏။ ယင်းတို့ကား -

၁။ အပျင်းထူခြင်း

၂။ မေ့လျော့ခြင်း

၃။ ထကြွလုံ့လ မရှိခြင်း

၄။ ကိုယ် နှုတ် မစောင့်စည်းခြင်း

၅။ အအိပ်ကြူးခြင်း

၆။ အပျင်း ဝင်ခြင်း တို့ပင်ဖြစ်၏။ ဤခြောက်ပါးသောအပေါက်တို့ကို ပယ်စွန့်ရာ၏။

သဂါထာဝဂ္ဂသံယုတ်၊ နဇိရတိသုတ်။

## လူမွဲ

လောက၌ လူမွဲဖြစ်ရခြင်းကိုလည်းကောင်း၊ ကြွေးယူရခြင်းကိုလည်းကောင်း ဆင်းရဲသည်ဟု ဆိုရ၏။ လူမွဲသည် ကြွေးယူ၍ စားရသောကြောင့် ပင်ပန်း၏။

ကြွေးယူပြီးနောက် ကြွေးရှင်တို့သည် ထိုသူနောက်သို့ လိုက်ကြကုန်၏။ မပေးဆပ်လျှင် အချုပ်အနှောင်ခံရ၏။ ကာမဂုဏ်ခံစားရရှိရေးကို တောင့်တနေသောသူအား ထိုသို့ အချုပ်အနှောင် ခံရခြင်းသည် ဆင်းရဲ၏။

ထို့အတူပင် အရိယာတို့၏ အဆုံးအမ၌ သဒ္ဓါတရားမရှိသူ၊ အရှက်အကြောက်မရှိသောသူ၊ မကောင်းမှုကို ပွားစေတတ်သောသူသည် ကိုယ်နှုတ် စိတ်တို့ဖြင့် မကောင်းသောအမှုကိုပြု၍ ငါ့အပြစ်ကို သူများမသိပါစေနှင့်ဟု တောင့်တ၏။

မိမိ၏အပြစ်ကိုသိသော မကောင်းမှုရှိနေသော ထိုလူမိုက်သည် တိရစ္ဆာန်ဘုံ တစ်ခုခုသို့ ရောက်၍ဖြစ်စေ၊ ငရဲဘုံ၌ဖြစ်စေ အချုပ်အနှောင်ခံရလေ၏။

ဆက္ကအင်္ဂုတ္တိုရ်၊ ဣလာသုတ်။

## လောကီ လောကုတ္တရာ ကြီးပွားခြင်းအကြောင်း ခြောက်ပါး

ကိုယ်ရောစိတ်ပါ ကျမ်းမာခြင်း၊ ကိုယ်ကျင့်သီလရှိခြင်း၊ ပညာရှိတို့၏ အဆုံးအမကို လိုက်နာခြင်း၊ အကြားအမြင် ဗဟုသုတများခြင်း၊ ဒုစရိုက်ကိုရှောင်၍ သုစရိုက်တရားအတိုင်း ကျင့်သုံးခြင်း၊ မပျင်းရိခြင်း ဤခြောက်ပါးတို့သည် လောကီ လောကုတ္တရာနှစ်ဖြာသော ကြီးပွားခြင်း၏ အကြောင်းများပင်ဖြစ်၏။

အတ္တသဒ္ဒါရဇာတ် ၈၄။

## မတရားရသည့် အစာစားလျှင် သဘာဝက ဆဲတတ်သည်။

အကြင်သူသည် သူတစ်ပါးကို နှိပ်စက်ညှဉ်းဆဲ၍ ရရှိသောစည်းစိမ်ဥစ္စာတို့ကိုခံစား သုံးဆောင်၏။ ထိုသို့ သုံးဆောင်ခြင်းကြောင့် ထိုသူကို သဘာဝက ဆဲတတ်၏။ သဘာဝ၏ဆဲခြင်းကို ခံရသော သူသည် ရုပ်အဆင်းလည်း ပျက်တတ်၏။ ခွန်အားဗလလည်း ယုတ်တတ်၏။

စက္ကဝါကဇာတ် ၄၃၄။

## အရွယ်လွန်မှ နောင်တရ

အရွယ်ရှိတုန်းက သူတော်ကောင်းတရားကိုလည်း မကျင့်မိ၊ ပစ္စည်းဥစ္စာလည်း မစုမိလျှင် အရွယ်လွန်သောအခါ ရေလည်းခန်း ငါးလည်းကုန်နေသော ညွန်အိုင်ထဲက အတောင်ကျိုးသည့် ကြိုးကြာအိုကြီးလို မှိုင်တွေချကာ နောင်တရတတ်လေသည်။

ဓမ္မပဒ၊ ဇရာဝဂ်။

## အသီးအနှံ

လယ်မြေကောင်း၌ စိုက်ပျိုးသည့် မျိုးကောင်းမျိုးသန့်သည် မိုးကောင်းစွာရွာသည်ရှိသော် စပါး၏ ပြည့်စုံခြင်း၊ နှံဖြတ်ပိုးစသည့်ဘေးမှကင်းခြင်း၊ အပင်သန်ခြင်း၊ အခက်အတက် စည်ကားခြင်း၊ အနှံကြီးခြင်းဟူသော ပြည့်စုံခြင်း ဖြစ်သကဲ့သို့ ဤအတူ သီလနှင့်ပြည့်စုံသော ပုဂ္ဂိုလ်တို့၌ လှူဒါန်းအပ်သည့် ပြည့်စုံသော ဘောဇဉ်သည် ထိုသူ၏ကောင်းမှုက ပြည့်စုံသောကြောင့် ပြည့်စုံသော အကျိုးကို ဆောင်၏။

အင်္ဂုတ္တိုရ်၊ ခေတ္တသုတ်။

## အပျင်းဓာတ်

အပျင်းဓာတ်သည် လုံ့လဝီရိယရှိသောသူကို မနှိပ်စက်နိုင်၊ လုံ့လဝီရိယရှိသောသူကသာ အပျင်းဓာတ်ကို နှိပ်စက်နိုင်၏။

စတုက္က အင်္ဂုတ္တိုရ်၊ အရိယဝံသသုတ်။

## အညစ်အကြေး

ရဟန်းတို့၊ အညစ်အကြေးရှစ်မျိုးရှိ၏။ အဘယ်ရှစ်မျိုးနည်း ဟူမူ -

၁။ မသရဇ္ဈာယ်ခြင်းသည် အတတ်ပညာ၏ အညစ်အကြေးမည်၏။

၂။ ထကြွလုံ့လမရှိခြင်းသည် အိမ်၏အညစ်အကြေးမည်၏။

၃။ ပျင်းရိခြင်းသည် ရုပ်အဆင်း၏ အညစ်အကြေးမည်၏။

၄။ မေ့လျော့ခြင်းသည် စီးပွားဥစ္စာကို စောင့်ရှောက်သူ၏ အညစ်အကြေး မည်၏။

၅။ အကျင့်စာရိတ္တမကောင်းခြင်းသည် မိန်းမ၏အညစ်အကြေး မည်၏။

၆။ နမြောဝန်တိုခြင်းသည် ပေးလှူခြင်း၏ အညစ်အကြေးမည်၏။

၇။ အကုသိုလ် အယုတ်တရားတို့သည် မျက်မှောက်တမလွန်နှစ်တန်သောဘဝ၏

၈။ မသိမိုက်မဲမှု အဝိဇ္ဇာသည် ဆိုခဲ့သောအညစ်အကြေးတို့ထက် အထူးသဖြင့် လွန်ကဲသော အညစ်အကြေး မည်၏။

အင်္ဂုတ္တိုရ်

## စကားလေးပါး

လျောက်ပတ်သော အရပ်၌ နေရာ၏။ လူကောင်း သူကောင်းကို မိတ်ဆွေဖွဲ့ရာ၏။ မိမိကိုယ်စိတ်ကို ကောင်းစွာထားရာ၏။ ရှေးကပြုထားသော ကောင်းမှုရှိသူဖြစ်ရာ၏။ ထိုပုဂ္ဂိုလ်ကို စည်းစိမ်ဥစ္စာ အခြံအရံဂုဏ်သတင်းကျော်စောခြင်းနှင့် ချမ်းသာခြင်းတို့သည် (ဒီရေအလား) လွှမ်းမိုး တိုးတတ်၏။

စတုက္ကအင်္ဂုတ္တိုရ်၊ စက္ကသုတ်။

## အိမ်ရှင်မတို့ဘဝကို အောင်နိုင်နည်း

ဝိသာခါ၊ လေးပါးသော ဂုဏ်ကျေးဇူးတို့နှင့်ပြည့်စုံသော မာတုဂါမသည် မျက်မှောက်ဘဝကို အောင်နိုင်အောင် ကျင့်သည်မည်၏။ ဤဘဝတွင် ဆောင်ရွက်ထိုက်သမျှကို ကြိုးစား အားထုတ်ပြီး ဖြစ်၍ ပြီးပြည့်စုံသူမည်၏။ အဘယ်လေးပါးနည်း ဟူမူ -

၁။ မာတုဂါမသည် အိမ်မှုကိစ္စကို ကောင်းစွာစီမံဆောင်ရွက်တတ်၏။

၂။ အခြွေအရံ ပရိသတ်တို့ကို ချီးမြှောက်ထောက်ပံ့တတ်၏။

၃။ လင်ယောကျ်ားနှစ်သက်အောင် ပြုမူတတ်၏။

၄။ လင်ယောကျ်ား ရှာဖွေသော ပစ္စည်းတို့ကို ကောင်းစွာထိန်းသိမ်းတတ်၏။

- ဤလေးပါးပင်ဖြစ်၏။

အဋ္ဌကအင်္ဂုတ္တိုရ်။

## ကြီးပွားချမ်းသာရေး

ဤတရားလေးပါးတို့သည် အမျိုးကောင်းသားအား မျက်မှောက်ဘဝ၌ အကျိုးစီးပွားဖြစ်ရန် ချမ်းသာ သုခရရန်အတွက် ဖြစ်ကုန်၏။

အဘယ် လေးပါးနည်း ဆိုသော် -

၁။ ထကြွလုံ့လနှင့် ပြည့်စုံမှု (ဥဋ္ဌာန သမ္ပဒါ)

၂။ ထိန်းသိမ်းစောင့်ရှောက်ခြင်းနှင့် ပြည့်စုံမှု (အာရက္ခ သမ္ပဒါ)

၃။ မိတ်ဆွေ ကောင်းရှိမှု (ကလျာဏ မိတ္တတာ)

၄။ မျှတစွာ အသက်မွေးမှု (သမဇီဝိတတာ)

- ဤလေးပါးတို့ပင်တည်း။

အဋ္ဌကအင်္ဂုတ္တိုရ်။

## သစ်တစ်ပင်ကောင်း ငှက်တစ်သောင်းခိုရ

ရဟန်းတို့၊ သူတော်ကောင်းတစ်ယောက်ပေါ်ပေါက်လာခြင်းသည် လူပေါင်းများစွာ အကျိုးရှိရန်၊ အစီးပွားဖြစ်ရန်၊ ချမ်းသာရန်အတွက် ဖြစ်၏။ ဥပမာအားဖြင့် သည်းထန်စွာရွာသွန်းသော မိုးကြီးသည် ကောက်ပဲသီးနှံတို့ကို ပြည့်စုံစေလျက် လူပေါင်းများစွာ၏ အကျိုးစီးပွားဖြစ်ရန်အတွက်၊ ချမ်းသာရန်အတွက် ဖြစ်သကဲ့သို့ သူတော်ကောင်းတစ်ယောက် ပေါ်ပေါက်လာခြင်းသည် လူပေါင်း များစွာ အကျိုးစီးပွားဖြစ်ရန်ချမ်းသာရန်အတွက်ဖြစ်၏။

ပဉ္စကအင်္ဂုတ္တိုရ်၊ သပ္ပုရိသသုတ်။

## စည်းစိမ်ဥစ္စာ ပျက်စီးခြင်း

ရဟန်းတို့၊ စည်းစိမ်ဥစ္စာပျက်စီးခြင်းသည်

ဆိုလတ္တံ့သော အကြောင်းလေးမျိုးကြောင့်သော် လည်းကောင်း၊ ၄င်းလေးမျိုးအနက် တစ်မျိုးမျိုး ကြောင့်သော်လည်း ဖြစ်၏။

၁။ ပျောက်သည်ကို မရှာဖွေ၊

၂။ ပျက်သည်ကို မပြင်၊

၃။ အတိုင်းအရှည်မရှိ သုံးစွဲသည်၊

၄။ အကျင့်စာရိတ္တမကောင်းသူကို စီမံအုပ်ချုပ်ခိုင်းသည်။

စတုက္ကအင်္ဂုတ္တိုရ်၊ ကုလသုတ်။

## ပရဟိတ

သူတစ်ပါးအကျိုးကို ဆောင်သောပုဂ္ဂိုလ်သည် လူပေါင်းများစွာတို့၏ စည်းစိမ်ကို စောင့်ရှောက်၏။ တရားကို စောင့်သော ထိုသူမျိုးကို နတ်တို့က စောင့်ရှောက်၏။ အကြားအမြင် လည်းများ အကျင့်သီလနှင့်လည်း ပြည့်စုံ တရား၌လည်းတည်သော ထိုပုဂ္ဂိုလ်ကို ဂုဏ်သတင်း ကျော်စောခြင်းက စွန့်ခွာမည် မဟုတ်ချေ။

ပဉ္စကအင်္ဂုတ္တိုရ်၊ သပ္ပုရိသသုတ်။

## မညှဉ်းဆဲဘဲရသည့် အစာသည် ရုပ်လှစေတတ်၏

လူတစ်ဖက်သားကို နှိပ်စက် ညှဉ်းဆဲလေ့မရှိသောသူသည် အနည်းငယ်မျှဖြစ်သော်လည်း မညှဉ်းဆဲဘဲရသည့် ငြိမ်းအေးသော အစားအစာကို သုံးဆောင်သောကြောင့် ခွန်အားဗလလည်းရှိ၏။ ရုပ်အဆင်းလည်း ကြည်လင်လှပ၏။ မှန်၏။ ရုပ်အဆင်းလှပခြင်း ဟူသမျှအားလုံးသည် အစာအာဟာရ တစ်မျိုးတည်းကြောင့် ဖြစ်သည် မဟုတ်ချေ။

စက္ကဝါကဇာတ် ၄၃၄။

# ပြည်သူ့ဝန်ထမ်း

## အရည်အချင်း

ပြည်သူ့ဝန်ထမ်း တစ်ယောက်သည် ကိုယ်ကျင့်တရားလည်းကောင်း၊ အရည်အချင်းလည်း ပြည့်ဝ၊ ပြစ်ချက်ကင်း၍ သန့်ရှင်းသူလည်းဖြစ်ပါက အထက်အစိုးရ၏ အသိအမှတ်ပြုခြင်းကို ခံရ၏။ ချီးမြှောက်စရာရှိလျှင်လည်း ဦးစားပေးခြင်းခံရသည်၊ အရေးကြီးသော ကိစ္စများကိုလည်း ယုံကြည်စွာ တာဝန်ပေးခြင်းခံရသည်။

ဝိဓုရဇာတ်တော်။

## မျက်နှာကြီး မျက်နှာငယ် မရွေးနှင့်

ပြည်သူ့ဝန်ထမ်းသည် အစိုးရက စေခိုင်းရာ၌ဖြစ်စေ၊ အစိုးရကိစ္စကိုဆောင်ရွက်ရာ၌ဖြစ်စေ မျက်နှာကြီး မျက်နှာငယ် မရွေးဘဲ ချိန်ခွင်ပမာ ဟိုဘက်သည်ဘက် လျှာမထွက်ဘဲ တည့်မက်စွာ ဆောင်ရွက်ရာ၏။

ဝိဓုရဇာတ်တော်။

## နေ့ည ရွေးမနေနှင့်

ပြည်သူ့ဝန်ထမ်းသည် အစိုးရကိစ္စ ဆောင်ရွက်စရာရှိလျှင် နေ့ဖြစ်ဖြစ် ညဖြစ်ဖြစ် စိတ်ပျက် တွက်ကပ်ခြင်းမရှိဘဲ ဆောင်ရွက်ရ၏။

ဝိဓုရဇာတ်တော်။

## အပြောဆင်ခြင်

ပြည်သူ့ဝန်ထမ်းသည် စကားကို ပြောသင့်သည်ထက် ပိုပြီးများများ မပြောသင့်၊ အခါခပ်သိမ်း မပြောဘဲလည်း မနေသင့်၊ ပြောဖို့ကြုံလာလျှင် ပြောသင့်သလောက်ကို သေသေသပ်သပ် ပြောဆိုရာ၏။

ဝိဓုရဇာတ်တော်။

## အကျိုးရှိမှပြော

ပြည်သူ့ဝန်ထမ်းသည် အမျက်ဒေါသ နည်းရမည်။ သူတစ်ပါးကို မထိခိုက်ရ၊ မှန်ကန်သောအကြောင်းကို ယဉ်ကျေးသိမ်မွေ့စွာ ပြောရမည်။ အခြားသူကို တိုက်ခိုက်ပြီး မပြောသင့်၊ အကျိုးမရှိသော (လုပ်လို့ မဖြစ်သော) စကားကို မပြောသင့်။

ဝိဓုရဇာတ်တော်။

## ဝမ်းထဲမှာ ဂိုဒေါင်ဆောက်ပါ

မိမိနိုင်ငံမှ နှင်ထုတ်ခံရသဖြင့် သူတစ်ပါးနိုင်ငံသို့ သွားရောက် ရသောသူသည် မကောင်းသော စကားတို့ကို သိုမှီထားဖို့အတွက် ဝမ်းထဲတွင် ကြီးစွာသော ဂိုဒေါင်ဆောက်ထားရာ၏။

ဒဒ္ဒရဇာတ် ၃၀၄။

## အရည်အချင်းကောင်း

ပြည်သူ့ဝန်ထမ်းသည် မိမိ၏အလုပ်တာဝန်၌ အမြဲတမ်းတက်တက်ကြွကြွ ရှိနေရမည်။ အမြဲတမ်းစိတ်ဝင်စားနေရမည်။ အမြဲတမ်း ဝေဖန်သုံးသပ်နေရမည်။ မှန်ကန်အောင် ဆုံးဖြတ်၍ စီမံဆောင်ရွက်နိုင်ရမည်။

ဝိဓုရဇာတ်တော်။

## လေ့လာရေးဆင်း

ပြည်သူ့ဝန်ထမ်းသည် စပါးနယ်သည့်တလင်းလယ်တဲ နွားခြံ (မွေးမြူရေးခြံ)နှင့် လယ်ထွန်ရာ လယ်ကွက်တို့သို့ မကြာမကြာ သွားရောက်ရာ၏။ ဝမ်းစာစပါးကို အိမ်ထောင်စုအတွက် ချင့်ချိန်ပြီး ကျီသို့သွင်းရာ၏။ ထမင်းချက်ရာ၌လည်း အိမ်ထောင်စုအရေအတွက်နှင့် ချင့်တွက်၍ အကျန်လည်းမများ လူအားလုံးအတွက်လည်း လောက်အောင်ချက်ရာ၏။

ဝိဓုရဇာတ်တော်။

## အထက်ရောက်လျှင်အောက်ခြေလွတ်တတ်သည်

ရဟန်းတို့၊ ထင်ရှားကျော်စော အခြံအရံများခြင်းသို့ မရောက်သေးသော ပုဂ္ဂိုလ်၌ အချို့သော (အလွန်မာနထောင်လွှားခြင်း စသော) အပြစ်တို့သည် မဖြစ်ပေါ်တတ်ချေ။ ထင်ရှားကျော်စော အခြံအရံများခြင်းသို့ ရောက်လာသောအခါ၌ကား အလွန်မာနထောင်လွှားခြင်း စသော အပြစ်များ ဖြစ်ပေါ်လာတတ်ပေသည်။

မူလပဏ္ဏာသ၊ ဝိမံသကသုတ်။

## လောက

## အိုးမှန်သမျှ ကွဲကြသည်

အိုးထိန်းသည် ပြုလုပ်သော မြေအိုးတို့သည် ကွဲခြင်းဖြင့် အဆုံးသတ်ရသကဲ့သို့ သတ္တဝါမှန်သမျှ သေခြင်းဖြင့် ဇာတ်သိမ်းကြရသည်သာ။

သုတ္တနိပါတ်၊ သလ္လသုတ်။

## အမြဲလိုနေသည်

လောကကြီးသည် ပျက်စီးခြင်းဘက်သို့ မျက်နှာမူ၍သွားနေ၏။ ခဏကလေးမျှ ရပ်တန့်နေသည်မရှိ၊ လောကကြီးသည် မှီခိုစရာ ဘာတစ်ခုမျှမရှိ၊ အားထားစရာ ဘာတစ်ခုမျှမရှိ၊ လောကကြီး၌ ပိုင်ဆိုင်သောအရာ ဘာတစ်ခုမျှမရှိ၊ အားလုံးစွန့်ပယ်ထားရမည့် အရာတွေချည်း ဖြစ်သည်။ လောကကြီးသည် အမြဲလို နေ၏။ တင်းတိမ်ကျေနပ်သည်ဟု မရှိ၊ တဏှာ၏ကျွန်ကြီး ဖြစ်သည်။

မဇ္ဈိမပဏ္ဏာသ၊ ရဋ္ဌပါလသုတ်။

## အသက်

လောက၌ သတ္တဝါတို့၏ အသက်သည် အရိပ်နိမိတ်ပြမနေဘဲ သေချင်လျှင် ဖြုတ်ခနဲ သေတတ်သောကြောင့် မည်မျှလောက်ရှည်မည်ဟု မသိနိုင်၊ အကြောင်းအမျိုးမျိုးနှင့်စပ်နေသဖြင့် အသက်ရှည်ရေးအတွက် စိတ်မချရ၊ တိုလည်း တိုတောင်းလှ၏။ ထိုသို့ဖြစ်နေသည့် အသက်သည် ဒုက္ခအမျိုးမျိုးနှင့် ရောယှက်၍လည်း နေသေး၏။

သုတ္တနိပါတ်၊ သလ္လသုတ်။

## မသေတဲ့နည်း မရှိ

မွေးဖွားလာသည့် သတ္တဝါတို့မသေအောင် လုပ်နိုင်သည့် လုံ့လမျိုး နည်းလမ်းမျိုးတူ၍ လုံးလုံးမရှိ၊ အိုခြင်းသို့ရောက်ပြီးမှလည်း သေတတ်၏။ မအိုမီလည်း သေတတ်၏။ သတ္တဝါမှန်က သေတတ်သောသဘောရှိသည်။

သုတ္တနိပါတ်၊ သလ္လသုတ်။

## လူမိုက်တစ်သက် လူလိမ္မာတစ်ရက်

ကိုယ်ကျင့်တရားလည်းမရှိ၊ ကုသိုလ်ကောင်းမှုတို့၌ စိတ်ပါဝင်စားခြင်းလည်းမရှိသူ အသက်တစ်ရာနေရခြင်းထက် ကိုယ်ကျင့်တရားရှိလျက် ကုသိုလ်ကောင်းမှုတို့၌ စိတ်ဝင်စားကာ တစ်ရက်တာမျှ အသက်ရှင်ခြင်းက ပို၍ မြတ်၏။

ဓမ္မပဒ၊ သဟဿဝဂ်။

## အချိန်ကို စားမျိုနိုင်လျှင်

အချိန်ကာလနှင့် ဘီလူးကြီးသည် သတ္တဝါတို့ကို သူ့ကိုယ်နှင့်တကွ စားမျိုနေ၏။ အချိန်ကာလကို စားမျိုနိုင်သောသူသည်ကား သတ္တဝါတို့ကို အပါယ်၌ ကျက်အောင်လုပ်နေသည့် တဏှာကို ပြာချပစ်နိုင်လေသည်။

ဇာတက၊ မူလပရိယာယဇာတ်။

## အဝိဇ္ဇာကြောင့်

သတ္တဝါတို့သည် မွေးဖွားခြင်း သေခြင်းဟူသော သံသရာစက်ထဲသို့ ထပ်တလဲလဲ ရောက်နေကြ၏။ တစ်ဘဝမှ တစ်ဘဝသို့ကျင်လည်နေကြရ၏။ ဤသို့ ဖြစ်နေခြင်းမှာ အဝိဇ္ဇာကြောင့်သာ ဖြစ်၏။

သုတ္တနိပါတ်၊ ဒွါယတာနုပဿနာသုတ်။

## ဖဿ

မိမိ၌ဖြစ်လာသမျှ ဒုက္ခတို့သည် အာရုံနှင့်ထိတွေ့မှု ဖဿဟူသော အကြောင်းကြောင့် ဖြစ်၏။ အာရုံနှင့် ထိတွေ့မှု ဖဿမရှိလျှင် ဒုက္ခဖြစ်တော့မည် မဟုတ်ချေ။

သုတ္တနိပါတ်၊ ဒွါယတာနုပဿနာသုတ်။

## သက်ရှိလူသေ

ကောင်းသောတရားတို့၌ မမေ့မလျော့ခြင်းသည် မသေခြင်း၏အကြောင်းဖြစ်၏။ မေ့လျော့နေခြင်းသည် သေခြင်း၏ အကြောင်းဖြစ်၏။ မေ့မေ့လျော့လျော့နေသောသူတို့သည် သက်ရှိလူသေများ ဖြစ်၏။ မမေ့မလျော့သောသူတို့ကား သက်ရှိလူရှင်များ ပေတည်း။

ဓမ္မပဒ၊ အပ္ပမာဒဝဂ်။

## နေ့တွေ ရက်တွေ

သေခြင်းတရားသည် လောကကြီးကို အမြဲနှိပ်စက်နေ၏။ အိုခြင်းတရားသည် လောကကြီးကို အမြဲဝန်းရံနေ၏။ နေ့ရက်အချိန်တို့သည် အလကားသက်သက် ကုန်လွန်နေကြသည် မဟုတ်၊ သတ္တဝါတို့၏ အသက်အရွယ်နှင့် ခွန်အားဗလကို ဖဲ့ရွဲ့ယူဆောင်ပြီး ကုန်လွန်နေကြခြင်း ဖြစ်သည်။

တေမိယဇာတ်တော်။

## ခံစားမှု

မိမိ၌ဖြစ်လာသမျှ ဒုက္ခတို့သည် ခံစားမှုဟူသော အကြောင်းကြောင့် ဖြစ်၏။ ခံစားမှု မရှိတော့လျှင် ဒုက္ခဖြစ်တော့မည် မဟုတ်ချေ။

သုတ္တနိပါတ်၊ ဒွါယတာနုပဿနာသုတ်။

## ခံစားမှုက အရင်းခံ

ခံစားမှု ဘယ်အခါမျှ ဖြစ်ပေါ်မလာခဲ့လျှင် ယင်းသို့ ခံစားမှု ချုပ်ငြိမ်းခြင်းကြောင့် တပ်မက်မှုတဏှာ ထင်ရှားဖြစ်လာနိုင်ပါဦးမည်လော၊ (မဖြစ်လာနိုင်ပါဘုရား)၊ အာနန္ဒာ၊ ထို့ကြောင့် ဤခံစားမှုသည်သာလျှင် တပ်မက်ခြင်း၏အကြောင်းအရင်းပေတည်း အခြေခံပေတည်း၊ ဖြစ်ကြောင်းပေတည်း၊ အထောက်အပံ့ပေတည်း။

အာနန္ဒာ၊ ဤသို့လျှင် ခံစားမှုကိုစွဲ၍ တပ်မက်ခြင်းသည်ဖြစ်၏။ တပ်မက်ခြင်းကိုစွဲ၍ ရှာမှီးခြင်းသည် ဖြစ်၏။ ရှာမှီးခြင်းကို စွဲ၍ ရခြင်းသည် ဖြစ်၏။ ရခြင်းကိုစွဲ၍ အသုံးချရန် စိတ်ပိုင်းဖြတ်ခြင်းသည် ဖြစ်၏။ စိတ်ပိုင်းဖြတ်ခြင်းကိုစွဲ၍ နှစ်သက်တပ်စွဲခြင်းသည်ဖြစ်၏။ နှစ်သက် တပ်စွဲခြင်းကို စွဲ၍ သူများနှင့်မဆိုင် ငါသာပိုင်သည်ဟု သိမ်းပိုက်ခြင်းသည် ဖြစ်၏။ သိမ်းပိုက်ခြင်းကို စွဲ၍ သိမ်းဆည်းခြင်းသည် ဖြစ်၏။ သိမ်းဆည်းခြင်းကိုစွဲ၍ ဝန်တိုခြင်းသည် ဖြစ်၏။ ဝန်တိုခြင်းကို စွဲ၍ စောင့်ရှောက်ခြင်းသည်ဖြစ်၏။ စောင့်ရှောက်ခြင်းဟူသော အကြောင်းကြောင့် တုတ် ဓား လက်နက်ဆောင်ရခြင်း၊ ခိုက်ရန်ဖြစ်ခြင်း၊ ဆန့်ကျင်ဘက်ဖြစ်ရခြင်း၊ အငြင်းပွားရခြင်း၊ မခံချင်အောင် ပြောဆိုခြင်း၊ ကုန်းတိုက်ခြင်း၊ လိမ်လည်ခြင်းဟူသော ယုတ်မာသော အကုသိုလ်တရားများစွာတို့သည် ဖြစ်ကုန်၏။

သုတ်မဟာဝါ၊ မဟာနိဒါနသုတ်။

## ကာမဂုဏ်

ကာမဂုဏ်အကြောင်းကို ပိုင်းပိုင်းခြားခြားမသိကြသောကြောင့် ကာမဂုဏ်အာရုံကြော၌ မျောပါနေကြကုန်သော သတ္တဝါတို့အား မဆုံးနိုင်သော အချိန်ကာလ၊ လားရခြင်းဂတိနှင့် ဘဝကြီးငယ်တို့သည် သံသရာတစ်လျှောက်လုံး ဦးဆောင်၍ နေကြလိမ့်မည်။

ပဉ္စကအင်္ဂုတ္တိုရ်၊ မာတာပုတ္တသုတ်။

# ကာမဂုဏ်အလှတောမှာ

## ကုသိုလ်ပန်းကုံး

အရောင်မျိုးစုံပန်းပုံကြီးမှ ကောင်းနိုးရာရာပန်းတို့ကို ရွေးချယ်ကာ များစွာသော ပန်းကုံးတို့ကို ပြုလုပ်သကဲ့သို့ ပန်းပွင့်ပမာ ဥစ္စာနှင့် သဒ္ဒါတရားအစုအပုံမှ များစွာသော ကုသိုလ် ပန်းကုံးတို့ကို သီကုံးပြုလုပ်ရာ၏။

ဓမ္မပဒ၊ ပုပ္ဖဝဂ်။

## ဒါန - စစ်

ဒါနသည် စစ်တိုက်ခြင်းနှင့် တူ၏။ စစ်တိုက်ရာ၌ စစ်သားအနည်းငယ်ဖြင့်လည်း များစွာသော ရန်သူတို့ကို နိုင်သကဲ့သို့ အနည်းငယ်သော စေတနာကလေးဖြင့်လည်း နမြောဝန်တိုမှ စသည့် များစွာသော မကောင်းစိတ်တို့ကို အနိုင်ရလေသည်။ ယုံယုံကြည်ကြည်နှင့်လှူလျှင် နောင်ဘဝ၌လည်း ချမ်းသာရ၏။

ဇာတက၊ အာဒိတ္တဇာတ် ၄၂၄။

## မေ့မောနေလျှင်

ပန်းပွင့်ကလေးများကို ကောင်းနိုးရာရာ ရွေးချယ်သီကုံးသကဲ့သို့ ကာမဂုဏ်အာရုံတို့ကို ကောင်းနိုးရာရာ အာသာမပြယ် ရွေးချယ်ကာဖြင့် တွယ်တာမက်မောနေသောသူကို သည်းထန်သော မိုးကြီးသည် အိပ်မောကျသောတစ်ရွာလုံးကို တိုက်ယူကာ သမုဒ္ဒရာထဲ မျှောချသကဲ့သို့ သေမင်းသည် ထိုသူကို ယူဆောင်ကာ အပါယ်သို့မျှောချလေ၏။

ဓမ္မပဒ၊ ပုပ္ဖဝဂ်။

# အထွေထွေ

## သစ္စာ

သစ္စာလေးပါး အမှန်တရားကို ဟုတ်တိုင်းမှန်စွာ မသိ မမြင်သောကြောင့် ထိုထိုဘဝ ဇာတ်တို့၌ ရှည်လျားစွာသော ကာလပတ်လုံး ကျင်လည်ခဲ့ကြရလေသည်။

မဟာဝဂ္ဂ၊ သစ္စသံယုတ်။

## ဘယ်သူမပြု မိမိမှု

မိမိ၌ ဖြစ်လာသမျှ ဒုက္ခတို့သည် မိမိကိုယ်တိုင် ပြုလုပ်ခဲ့သည့်ကောင်းသောအမှု၊ မကောင်းသောအမှုဟူသော အကြောင်းကြောင့်သာ ဖြစ်၏။ မည်သည့်ကောင်းမှု မကောင်းမှုကိုမျှ မပြုလုပ်လျှင် ဒုက္ခဖြစ်တော့မည် မဟုတ်ချေ။

သုတ္တနိပါတ်၊ ဒွါယတာနုပဿနာသုတ်။

## ဝိညာဉ်

မိမိ၌ ဖြစ်လာသမျှဒုက္ခတို့သည် ပဋိသန္ဓေ ဝိညာဉ်ဟူသော အကြောင်းကြောင့်သာ ဖြစ်၏။ ပဋိသန္ဓေဝိညာဉ်မဖြစ်တော့လျှင် ဒုက္ခဖြစ်တော့မည် မဟုတ်ချေ။

သုတ္တနိပါတ်၊ ဒွါယတာနုပဿနာသုတ်။

## ငယ်စဉ်အခါ ပညာရှာ

ငယ်စဉ်အခါက ကျောင်းနေနိုင်ပါလျက်နှင့် ကျောင်းမနေ ပညာမသင်သောသူတို့သည် အရွယ်ရောက်၍ ပရိယေသနဝမ်းစာအတွက် ပင်ပင်ပန်းပန်းအလုပ်မျိုးကို လုပ်ရသောအခါကျမှ နောင်တရကြလေသည်။

ဇာတက၊ ဇနသန္ဓဇာတ် ၄၆၈။

## ဆင်းရဲကိုကုစားနည်း

အသစ်ဖြစ်သော ချမ်းသာ ဆင်းရဲဖြင့် အဟောင်းဖြစ်သော ချမ်းသာ ဆင်းရဲကို ဖုံးလွှမ်းပစ်ရမည်။

ဇာတက၊ အသာကဇာတ် ၂၀၇။

## လောဘ

လောဘသည် အကျိုးမဲ့ကို ဖြစ်စေတတ်၏။ လောဘသည်စိတ်ကို ချောက်ချားစေတတ်၏။ လူအပေါင်းသည် အတွင်းစိတ်၌ ဖြစ်နေသည့် ထိုလောဘတည်းဟူသော ဘေးကို မသိကြချေ။

က္ကတိဝုတ်၊ အန္တရာမလသုတ်။

## ကာမဂုဏ်အပြစ်

အမျိုးမျိုးအဖုံဖုံ ထွေပြား၍ သာယာနှစ်သက်ဖွယ်ကောင်းသည့် ကာမဂုဏ်အာရုံတို့သည် အစစ်အမှန်မဟုတ်သော အသွင်များဖြင့် စိတ်ကို မွှေနှောက်ချောက်ချားနေကြ၏။ ဤကာမဂုဏ်တို့၏ အပြစ်ကို မြင်သဖြင့် ကြံ့ချိုပမာ တစ်ကိုယ်တည်း ကျင့်ရာ၏။

သုတ္တနိပါတ်၊ ခဂ္ဂဝိသာဏသုတ်။

## အားငါးမျိုး

လက်ရုံးအား၊ ပစ္စည်းအား၊ ပရိသတ်အား၊ အမျိုးအနွယ်အား၊ ပညာအား ဟူ၍ အားငါးမျိုးရှိသည်။ ထိုငါးမျိုးတွင် လက်ရုံးအားသည် အောက်ထစ်ဆုံးဖြစ်၏။ ပစ္စည်းအားက ဒုတိယ၊ ပရိသတ်အားက တတိယ၊ အမျိုးအနွယ်အားက စတုတ္ထဖြစ်၏။ ပညာအားက ထိပ်ဆုံးဖြစ်လေသည်။ ပညာအားရှိသောသူသည် ကျန်သောအားလေးမျိုးရှိသူတို့ကို လွှမ်းမိုးနိုင်၏။

ဇာတက၊ တေသကုဏဇာတ် ၅၂၁။

## ဦးခေါင်းတိုင်မှာ နားမပါ

လူတိုင်းလူတိုင်းမှာ လည်ပင်း၌ တပ်ထားသော အပေါ်ကဆံပင်တွေနေသည့် ဦးခေါင်းတွေ ရှိကြသည်။ ဤများစွာသော ဦးခေါင်းတို့တွင် တစ်ခုတစ်လေမှသာ ကြားသိတတ်သော နား ပါရှိလေသည်။

ဇာတက၊ မူလပရိယာယဇာတ် ၂၄၅။

## နံပြည်စုတ်က ဆင်ကိုနိုင်

တစ်ခါတစ်ရံ အင်အားနည်းသောသူကလည်း အင်အားကြီးသောသူအား နိုင်ပေါက်ကို ရနိုင်၏။ နံပြည်စုတ်ငှက်ကလေးက ဆင်ပြောင်ကြီးကို သတ်ခဲ့ဖူး၏။

ဇာတက၊ ကုဏာလဇာတ် ၅၃၆။

## တပ်မက်သူ

တပ်မက်သောသူသည် ကိုယ့်အကျိုး သူ့အကျိုးကို မသိ၊ တပ်မက်သောသူသည် တရားသည် မတရားသည်ကို မသိ။ တပ်မက်မှု ဖိစီးလွှမ်းမိုးသောအခါ လူသည် အမှောင်မိုက်ထဲသို့ ရောက်သွား၏။ တပ်မက်မှု လောဘကိုပယ်၍ တပ်မက်ဖွယ် အာရုံတို့၌ မတပ်မက်ဘဲနေသောအခါ `ပိန်းကြာဖက်မှ ရေလျှောကျသကဲ့သို့ ´ လောဘသည် ထိုအာရုံမှ ကင်းပျောက်လေတော့၏။

ဣတိဝုတ်၊ အန္တရာလေသုတ်။

## ကျက်သရေမဲ့သူ

အကျိုးရှိသည့် အလုပ်များကို ယခုပြုရမည့်အလုပ် နောင်ပြုရမည့်အလုပ် ဟု ခွဲခြား၍မသိသော၊ အကျိုးလို၍ ဆိုဆုံးမလျှင် စိတ်ဆိုးတတ်သော၊ လူကြီး လူကောင်းတို့ကို မထီမဲ့မြင်ပြု တတ်သော၊ ကာမဂုဏ်၌အမြဲမပြတ် မက်မောနေတတ်သော၊ မိတ်ကောင်း ဆွေကောင်းများ မကြာမကြာလန်သွားတတ်သော သူသည် အသရေမဲ့သူ ဖြစ်၏။

ဇာတက၊ သီရိကာလကဏ္ဏီဇာတ် ၃၈၂။

## ကျက်သရေရှိသူ

အကျိုးရှိသည့် အလုပ်ကိစ္စပြုရမည့် အချိန်အခါကို သိသော၊ အကျိုးလို၍ ဆိုဆုံးမလျှင် စိတ်မဆိုးတတ်သော၊ မိတ်ကောင်းဆွေကောင်းလည်းရှိ၊ အပေးအကမ်းလည်းရက်ရော၊ ကိုယ်ကျင့်တရားလည်း ကောင်းလျက် ကောက်ကျစ်စဉ်းလဲခြင်းမရှိဘဲ စိတ်သဘောထား ဖြောင့်မက်သော၊ သူတစ်ပါးကို ကူညီရိုင်းပင်းတတ်လျက် သိမ်မွေ့စွာပြောဆို ဆက်ဆံတတ်သော၊ အထက်တန်းသို့ ရောက်သွားသော်လည်း ဘဝင်မမြင့်ဘဲ နိမ့်ချလေ့ရှိသောသူသည် အသရေရှိသူ ဖြစ်၏။

ဇာတက၊ သိရိကာလကဏ္ဏိဇာတ် ၁၉၂။

## အဝေးကြီးသုံးမျိုး

ကောင်းကင်နှင့် မြေကြီးသည် အလွန်ဝေး၏။ သမုဒ္ဒရာသည်ဘက် ကမ်းနှင့် ဟိုဘက်ကမ်းသည် အလွန်ဝေး၏။ ၎င်းတို့ထက် သူတော်ကောင်းတရားနှင့် သူယုတ်မာတို့၏တရားက ပို၍ဝေးသည်။

ဇာတက၊ မဟာသုတသောမဇာတ် ၅၃၇။

## ဥစ္စာရင်လို ဥစ္စာရင်ခဲ

ကျက်သရေရှိသူ ဖြစ်အောင်လည်း မိမိသာလျှင် ပြုလုပ်၏။ ကျက်သရေမဲ့သူ ဖြစ်အောင်လည်း မိမိသာလျှင် ပြုလုပ်၏။ လူတစ်ယောက်က အခြားလူတစ်ယောက်ကို ကျက်သရေရှိအောင်လည်း မလုပ်နိုင်၊ ကျက်သရေမဲ့အောင်လည်း မလုပ်နိုင်

ဇာတက၊ သိရိကာလကဏ္ဏိဇာတ် ၁၉၂။

## ဗဟုသုတရှိအောင်လုပ်

အတတ်ပညာ ဗဟုသုတမှန်က အယုတ်အလတ်အမြတ်မရွေး ရသမျှကို သင်ကြား ဆည်းပူးရာ၏။ ရရှိထားသောအတတ်ပညာ ဗဟုသုတများကိုလည်း ကောင်းစွာ နားလည်အောင် လုပ်ထားရာ၏။ သို့ရာတွင် အားလုံးကို အသုံးချရမည် မဆိုလိုပေ။ မကောင်း ယုတ်ညံ့သော အတတ်ပညာဖြစ်က အသုံးမချသင့်ပေ။ အတတ်ပညာ ဗဟုသုတ အစုံတတ်ထားလျှင် တစ်ခါခါမှာ အသုံးချဖို့ ပေါ်လာနိုင်လေသည်။

ဇာတက၊ မူသိကဇာတ် ၃၇၃။

## ပျော့တန်ပျော့ မာတန်မာ

စိတ်သဘောထား နူးညံ့ပျော့ပျောင်းလွန်းသောသူသည် ခေါင်းဆောင်အဖြစ်၌ တာရှည်စွာ မရပ်တည်နိုင်၊ စိတ်ထက်လွန်းသောသူသည်လည်း ခေါင်းဆောင်အဖြစ်၌ တာရှည်စွာ မရပ်တည်နိုင်၊ သို့ဖြစ်၍ မာသင့်သည့်အခါ မာ၍ ပျော့သင့်သည့်အခါ ပျော့ရာ၏။

ဇာတက၊ မဟာပဒုမဇာတ် ၄၇၂။

## ပျော့လွန်းလျှင်ခံ မာလွန်းလျှင်ရန်

စိတ်သဘောထား ပျော့ညံ့လွန်းသောသူသည် သူတစ်ပါးနှိပ်စက်ခံရတတ်၏။ စိတ်ထက် လွန်းသော သူသည် ရန်များတတ်၏။ ဤသို့ဖြစ်ပုံကို သိသဖြင့် ပျော့လည်း မပျော့ညံ့လွန်း၊ ထက်လည်း မထက်လွန်းဘဲ မှန်တန်းစိတ်မျိုး ထားရာ၏။

ဇာတက၊ မဟာပဒုမဇာတ် ၄၇၂။

## စူးစမ်းဆင်ခြင်ပါ

မစူးစမ်း မဆင်ခြင်ဘဲ ပြုသောအမှု (သဘောတရားမပါသော လက်တွေ့) နှင့် မနိုင်းချိန်ဘဲ ကြံစည်သော အကြံအစည် (မျက်ကန်းအယူအဆ) သည် ဆေးကြောင့်ဖြစ်သော ရောဂါကဲ့သို့ မကောင်းကျိုးကို ဖြစ်စေတတ်၏။

ဇာတက၊ သောမနဿဇာတ် ၅၀၅။

## မြတ်သောသည်းခံခြင်း

ကိုယ့်ထက်မြတ်သူ (ကိုယ့်အထက်လူ) က ဆဲသည်ကို သည်းခံခြင်းသည် ကြောက်သော ကြောင့် ဖြစ်နိုင်သဖြင့် မြတ်သည်ဟု မဆိုနိုင်၊ ကိုယ်နှင့်တန်းတူလူက ဆဲသည်ကို သည်းခံခြင်းမှာ လည်း ရန်မဖြစ်ချင်သောကြောင့်ဟု ဆိုနိုင်သဖြင့် မြတ်သည်ဟု မဆိုနိုင်၊ ကိုယ့်အောက်ကလူ ဆဲသည်ကို သည်းခံခြင်းသာ တကယ်မြတ်သည်ဟု ဆိုရလေသည်။

ဇာတက၊ သရဘင်္ဂဇာတ် ၅၂၂။

## လူတန်းစားမခွဲနှင့်

အထိုက်အလျောက် ပေးကမ်းခြင်း၊ ချိုချိုသာသာပြောဆိုဆက်ဆံခြင်း၊ သူ့အကျိုးစီးပွားကို ဆောင်ခြင်း၊ အဆင့်အတန်းမခွဲဘဲ ကိုယ်နှင့်ထပ်တူပြုမူခြင်း၊ ဤသင်္ဂဟတရားလေးပါးသည် လူမှုရေး ဟူသော ဘီးကြီးလည်ပတ်နေရာ၌ လွတ်ထွက်မသွားအောင် ထိန်းထားသည့် အလွန် အရေးပါသော နားပန်းစွန်းပင်ဖြစ်သည်။

အင်္ဂုတ္တိုရ်၊ စတုက္ကနိပါတ်။

## ကြိုတင်ပြင်ဆင်ပါ

ပြုလုပ်ရမည့်ကိစ္စကို အချိန်ရောက်၍ ဆောင်ရွက်သည့်အခါ လွယ်ကူစေရန်အတွက် ကြိုတင်ပြင်ဆင်ထားရာ၏။ ယင်းသို့ကြိုတင်ပြင်ဆင်ထားခြင်းသည် ထိုကိစ္စကို ဆောင်ရွက်သည့်အခါ အခက်အခဲမရှိဘဲ လွယ်ကူချောမောစေနိုင်လေသည်။

ဇာတက၊ သမုဒ္ဒဝါဏိဇဇာတ် ၄၆၆။

## မကြံစည်ဘဲလည်း ဖြစ်လာတတ်သည်

မကြံစည်သော်လည်း ဖြစ်လာတတ်၏။ ကြံစည်သော်လည်း ပျက်တက်၏။ ယောက်ျား မိန်းမဟူသမျှတို့၌ စည်းစိမ်ချမ်းသာတို့သည် ကြံစည်တိုင်း ဖြစ်လာကြသည် မဟုတ်ချေ။

မဟာဇနကဇာတ်တော်။

## ကံ

ရဟန်းတို့၊ စေတနာလှုံ့ဆော်၍ ဆည်းပူးအားထုတ်ပြုလုပ်အပ်သောကံသည် အကျိုး မခံစားရဘဲ ပျောက်ပျက်မသွားပေ။

ဒသအင်္ဂုတ္တိုရ်၊ သဉ္စေတနိကသုတ်။

## ကိုယ်ပိုင်ဥစ္စာ

သေမင်းနိုပ်စက်၍ လူ့ဘဝကိုစွန့်သွားရသောသူအတွက် သူ့ကိုယ်ပိုင်ဥစ္စာကား မသေခင်က သူပြုခဲ့သည့်ကောင်းမှု မကောင်းမှုပင် ဖြစ်သည်။ ထိုကောင်းမှု မကောင်းမှုကို ယူဆောင်သွားရ၏။ သူပြုခဲ့သည့်မကောင်းမှု ကောင်းမှုသည် သူသွားရာသို့ အရိပ်ပမာ ပါသွားလေ၏။

သဂါထာဝဂ္ဂသံယုတ်။

## ဒုလ္လဘ

လူ့အဖြစ်သည် ရခဲ၏။ လူဖြစ်ပြီးနောက် အသက်ရှည်ရှည်နေရခြင်းသည်လည်း ရခဲ၏။ သူတော်ကောင်းတရားကို ကြားနာရခြင်းသည် ရခဲ၏။ မြတ်စွာဘုရား၏ ပွင့်ထွန်းတော်မူခြင်းကား အလွန်ရခဲသော ဒုလ္လဘဖြစ်လေသည်။

ဓမ္မပဒ၊ ဗုဒ္ဓဝဂ်။

## ရခဲသော ပုဂ္ဂိုလ်နှစ်ယောက်

ရဟန်းတို့၊ လောက၌ ဤပုဂ္ဂိုလ်နှစ်ယောက်ကို အလွန်ရခဲ၏။ အဘယ်ပုဂ္ဂိုလ်နှစ်ယောက်နည်းဟူမူ -

၁။ ရှေးဦးစွာ ကျေးဇူးပြုသော ပုဂ္ဂိုလ် နှင့်

၂။ သူ့ကျေးဇူးကိုသိတတ်သော ပုဂ္ဂိုလ်တို့ ဖြစ်၏။

ဒုကအင်္ဂုတ္တိုရ်။

## တစ်ခွန်းတစ်ပါဒ ဆုံးမသွန်သင် ကျေးဇူးရှင်

အကြင်ဆရာထံမှ အနည်းငယ်မျှ တစ်ခွန်းတစ်ပါဒပင် သိရသည်ဖြစ်စေ၊ မိမိ၏ မရှင်းလင်းချက်ကို ရှင်းလင်းပေးသည်ဖြစ်စေ ထိုဆရာသည် မိမိ၏မှီခိုအားထားရာပင် ဖြစ်သည်။ ပညာရှိမှန်က ထိုကဲ့သို့သော ဆရာမျိုးနှင့် မိတ်ကျွမ်းဝင်သူကို မပျက်စေသင့်ပေ။

မဟောသဇာတက။

## သမ္မာဒိဋ္ဌိ

ရဟန်းတို့၊ အရုဏ်ရောင်ဦးသည် နေထွက်ခြင်း၏ ရှေ့ပြေးဖြစ်သကဲ့သို့ ထို့အတူ သမ္မာဒိဋ္ဌိဟူသော အမြင်မှန်သည် သစ္စာလေးပါး အမှန်တရားကို သိခြင်း၏ ပုဗ္ဗနိမိတ်ဖြစ်၏။

မဟာဝဂ္ဂ၊ သစ္စသံယုတ်၊ ပဌမသူရိယသုတ်။

## မိန်းမ

မိန်းမတို့သည် သတိလွတ်သော ယောက်ျားကို ကြာကြည့်ကြည့်ခြင်းဖြင့်လည်းကောင်း၊ ပြုံးခြင်းဖြင့်လည်းကောင်း၊ မလုံ့ တလုံ့ဝတ်ခြင်းဖြင့် လည်းကောင်း၊ သာယာစွာ ပြောဆိုခြင်းဖြင့် လည်းကောင်း အမိဖမ်းတတ်ကုန်၏။ မိန်းမကိုသေ၍ အကောင်ပုပ်ဖြစ်နေသော်လည်း မကိုင်တွယ် အပ်သည်သာတည်း။

ပဉ္စကအင်္ဂုတ္တိုရ်၊ မာတာပုတ္တသုတ်။

## မိန်းမ၏အဆင်း

ရဟန်းတို့၊ လောက၌ မိန်းမ၏အဆင်း(ရူပါရုံ)လောက် (ယောက်ျား၏စိတ်ကို) စွဲမက်စေတတ်သော၊ နှစ်သက်စေတတ်သော၊ ယစ်မူးစေတတ်သော၊ နှောင်ဖွဲ့တတ်သော၊ တွေဝေစေတတ်သော်၊ နိဗ္ဗာန်ရောက်ရေးအတွက် အနှောက်အယှက် ပေးတတ်သော အခြားတစ်စုံ တစ်ရာသော အဆင်းကို ငါဘုရားမမြင်။

ပဉ္စကအင်္ဂုတ္တိုရ်၊ မာတာပုတ္တသုတ်။

## ယနေ့သာလိုရင်း

လွန်ပြီးသောအတိတ်ကိုလည်း တသ်သက်တွေးပြီး လွမ်းဆွေးမနေရ၊ မရောက်သေးသည့် အနာဂတ်ကိုလည်း တတောင့်တတ ဖြစ်မနေရ၊ အဘယ်ကြောင့်ဆိုသော် အတိတ်သည် ချုပ်ပျောက်ခဲ့ပြီး ဖြစ်၍ အနာဂတ်မှာလည်း မဖြစ်သေးသောကြောင့် ဖြစ်သည်။

ဥပရိပဏ္ဏာသပါဠိတော်၊ ဘဒ္ဒေကရတ္တသုတ်။

## အားအကောင်းဆုံး ရူပါရုံ

ရဟန်းတို့၊ မိန်းမ၏ရူပါရုံလောက် ယောက်ျား၏စိတ်နှလုံးကို ယူကျုံးဆွဲဆောင်နိုင်သည့် အခြားသောရူပါရုံကို ငါဘုရား မြင်တော်မမူချေ။ ရဟန်းတို့၊ မိန်းမ၏ရူပါရုံသည် ယောက်ျား၏ စိတ်နှလုံးကို သိမ်းကျုံးဆွဲငင်၍တည်၏။

ဧကအင်္ဂုတ္တိုရ်။

## အသက်ရှည်နည်း

ရဟန်းတို့၊ အသက်ရှည်ခြင်းအကြောင်း ငါးမျိုးရှိ၏။ ငါးမျိုးဟူသည်ကား -

၁။ မသင့်သော စားသောက်နေထိုင်မှုကို ပြုလေ့မရှိခြင်း

၂။ သင့်သော စားသောက်နေထိုင်မှု၌ အတိုင်းအရှည်ကိုသိခြင်း

၃။ ကြေလွယ်သောအစာကို စားခြင်း

၄။ သင့်သောအချိန်အခါ၌ လမ်းလျှောက်ခြင်း

၅။ မေထုန်မှုမှ ရှောင်ခြင်း

ဤငါးမျိုးတို့ပင်ဖြစ်သည်။

ပဉ္စကအင်္ဂုတ္တိုရ်၊ ပဌမအနာယုဿာသုတ်။

## အဝိဇ္ဇာ

ဒုက္ခကို အမှန်မသိမှု၊ ဒုက္ခဖြစ်ခြင်းအကြောင်းကို အမှန်မသိမှု၊ ဒုက္ခချုပ်ငြိမ်းရာသို့ ရောက်ကြောင်းအကျင့်ကို အမှန်မသိမှုကို အဝိဇ္ဇာဟု ဆိုအပ်၏။

မဟာဝဂ္ဂ၊ သစ္စသံယုတ်၊ အဝိဇ္ဇာသုတ်။

## အဘိဇ္ဈာ

မိမိ၏အဇ္ဈတ္တသန္တာန်၌ စိတ်ကို ကောင်းစွာထားသော သူသည် သူတစ်ပါးစည်းစိမ်ကို ရလိုသမှု ရှေးရှုကြံခြင်းဟူသော အဘိဇ္ဈာတရား မများသည်ဖြစ်၍ သူတစ်ပါး ပျက်စီးရာ ပျက်စီးကြောင်း မကောင်းမကြံခြင်းဟူသော စိတ်ဖြင့်နေရာ၏။ အရာရာတွင် သတိရှိလျက် တည်ကြည်သော စိတ်ရှိသူ ဖြစ်ရာ၏။

စတုက္ကအင်္ဂုတ္တိုရ်၊ ဓမ္မပဒသုတ်။

## မြစ်ချင်းပြီး

အရှင်ဂေါတမ၊ တစ်ခုတည်းသော တရားကို အကြိမ်များစွာ လေ့လာပွားများလျှင် မျက်မှောက်ဘဝ အကျိုးနှင့် တမလွန်ဘဝအကျိုးတို့ကိုပါ ပြီးစီးစေနိုင်သည့် တရားမျိုးရှိပါသလား။

ပုဏ္ဏား၊ ရှိ၏။ မမေ့လျော့ခြင်း သတိဟူသော ဤအပ္ပမာဒတရားသည် ကြိမ်ဖန်များစွာ လေ့လာပွားများလျှင် မျက်မှောက်ဘဝအကျိုးနှင့် တမလွန်ဘဝအကျိုးတို့ကိုပါ ပြီးစေနိုင်သည့် တစ်ခုတည်းသောတရားပင်တည်း။

ဆက္ကအင်္ဂုတ္တိုရ်၊ အပ္ပမာဒသုတ်။

